# ဥပုသ်သည်ဖတ်စရာ



ထွန်းလှိုင်
(မဟာစရိယ၊ ဘီအေ)

မဟာမိတ်စာပေ
အမှတ်(၂၁၇)၊ သိင်္ဂီ၃/လမ်းတောင်၊
၅ရပ်ကွက်၊ သာကေတမြို့နယ်။

# ပုံနှိပ်မှတ်တမ်း


| | |
|---|---|
| *စာမူခွင့်ပြုချက်* | ၃၂၀၁၇၅၀၆၀၃ |
| *မျက်နှာဖုံးခွင့်ပြုချက်* | ၃၂၀၂၉၂၀၆၀၅ |
| *မျက်နှာဖုံးပန်းချီ* | သာတင့်ထက် |
| *အကြိမ်* | ပထမအကြိမ် |
| | ၂၀၀၆–ခုနှစ်၊ အောက်တိုဘာလ |
| *အုပ်ရေ* | ၁၀၀၀ |
| *ဖလင်* | ကိုမျိုးညွန့်နှင့်အဖွဲ့ |
| *ထုတ်ဝေသူ* | ဦးထွန်းလွင် (ယာယီ–၈၁၃) |
| | တရားမြတ်စာပေ၊ အမှတ်(၂၁၇) |
| | သီဂီ၃/လမ်းတောင်၊(၅)ရပ်ကွက် |
| | သာကေတမြို့နယ်။ |
| *အဖုံးနှင့်အတွင်းပုံနှိပ်သူ* | ဒေါ်အေးအေးခိုင် |
| | စိန်ကြယ်ပုံနှိပ်တိုက်၊ အမှတ်–၇၂၊ |
| | လမ်း–၃၀၊ ကျောက်တံတားမြို့နယ်၊ |
| | ရန်ကုန်မြို့။ |
| *တန်းဖိုး* | ၃၅၀/– |

# ကန်တော့ပန်း

- ဤလောက၌ အမှန်တကယ် ပွင့်တော်မူခဲ့သော တစ်ဆူတည်းသော ဘုရားစစ် ဘုရားမှန် သဗ္ဗညုဘုရားရှင်ကိုလည်းကောင်း၊
- ထိုဘုရားရှင်၏ စစ်မှန်သော တရားတော်ကိုလည်းကောင်း၊
- ထိုဘုရားရှင်၏ စစ်မှန်သော သံဃာတော်ကို လည်းကောင်း၊
- ထိုဘုရားရှင်၏ အဆုံးအမ၌တည်သော မိဘနှင့် ဆရာသမားတို့ကိုလည်းကောင်း၊
- ဤစာအုပ်ကို ရေးသားပြုစုရသော ကုသိုလ်ပန်းဖြင့် ရွှင်လန်း အားရစွာ ပူဇော်ကန်တော့ပါ၏။

# ကျွန်တော့်အမှာစာ

ကျွန်တော် နိဒါန်းအရှည်ကြီး မသွယ်လိုပါ။ ကျွန်တော် လူပျိုဘဝက ရန်ကုန်တိုင်း၊ ကော့မှူးမြို့နယ်၊ သရက်တောကျေးရွာ အရှေ့ရွှေကျင်ကျောင်းသို့ ဘုန်းကြီး ဦးပညာနှင့်အတူ အလည် လိုက်သွားဖူးသည်။

ထိုစဉ်က ထိုကျောင်း ဆရာတော်ကြီးမှာ ရွှေကျင်နိကာယ ရဟန်းဆွမ်း မဟာနာယက တစ်ပါးဖြစ်သော ဆရာတော်ကြီး ဦးသောမ ဖြစ်သည်။ ဆရာတော်ကြီးက ပဋိပတ်သမား။ အချိန်ရတိုင်း ပဋိပတ်အလုပ်ကို လုပ်နေသော ပုဂ္ဂိုလ်ဖြစ်သည်။

ဥပုသ်နေ့ညကဖြစ်က ဆရာတော်ကြီး၏တပည့်ဒကာ ဥပုသ်သည်များ ကျောင်းမှာ လာအိပ်လေ့ရှိကြသည်။ သူတို့ ဆရာတော်ကြီးနှင့် တရားစကား ပြောတတ်သောအလေ့ ရှိကြသည်။

ထိုမြင်ကွင်းကို ကျွန်တော် အမှတ်တရ ရှိနေမြဲဖြစ်သည်။ စိတ်ထဲ ကြည်နူးသလိုလို ခံစားရလေ့ရှိသည်။

သို့သော် အခုအခါ ဆရာတော်ကြီး မရှိပြီ။ ဘဝနတ်ထံ ပျံလွန်တော်မူသွားရှာပြီ။ ကျွန်တော်ကမူ ဆရာတော်ကြီးတို့၏ ဥပုသ်ည ဓမ္မသာကစ္ဆာ ပုံရိပ်များကို ထင်ဟပ်နေဆဲဖြစ်သည်။ သို့နှင့်ပင် ကျွန်တော် ဤစာအုပ်ကို ရေးဖြစ်သွားရခြင်းဖြစ်သည်။

ကျွန်တော် ပြောလိုသည်က ကျွန်တော့်စာအုပ်ကို ဖတ်ကြည့်ပြီး စာရှုသူအား ကုသိုလ် ခွန်အားတစ်ခုခု တိုးတက်သွားမည်ဆိုလျှင် ကျွန်တော် ဤစာအုပ်ရေးရခြင်း နပ်ပါပြီလို့သာ

အားလုံးအပေါ် မေတ္တာထားလျက်

**ဦးထွန်းလွင် (ဓမ္မာစရိယ၊ ဘီအေ)**

**အယ်ဒီတာချုပ် (ရတနာမွန်မဂ္ဂဇင်း)**

# မာတိကာ

## ဥပုသ်သည်ဖတ်စရာ (၂) 

# ဥပုသ်သည် ဖတ်စရာ

## (၁)

ရွာဦးကျောင်းဆရာတော်သည် သည်နေ့ ဥပုသ်နေ့ဖြစ်သဖြင့် သူ့ဂေါပက ဒကာကြီးဦးတင်ဝင်းတို့ ရောက်လာလိမ့်မည်ကို မျှော်စောင့်နေသည်။

မောင်တင်ဝင်း၊ ကိုသိန်းအောင်၊ မောင်သန့်ဇင်၊ မောင်ပေါက်ကျော်တို့က ရွာဦးကျောင်း၏ ဂေါပကများဖြစ်ကြသည်။ သူတို့သည် ဥပုသ်နေ့ရောက်က သီလယူပြီး တရားနာကမ္မဋ္ဌာန်းထိုင်ကြသည်။ ညဘက်ရောက်က ကျောင်းမှာပင်အိပ်ပြီး ရွာဦးကျောင်းဆရာတော်နှင့် တရားဆွေးနွေး နာယူလေ့ရှိကြသည်။

မကြာခင် ဒကာတင်ဝင်းတို့ ဥပုသ်ကျောင်းမှာအိပ်ရန် ရောက်လာကြသည်။

"ဘယ်လိုလဲ ဒကာတင်ဝင်းရဲ့၊ ဒီနေ့ ဥပုသ် ဖြူဖြူ စင်စင်ပဲနော်"

"မှန်ပါ၊ တပည့်တော်တို့ ဥပုသ် ဖြူစင်သန့်ရှင်းကြပါတယ်"

"အေး… အဲလိုမှပေါ့၊ လူ့ကိုယ်လေးရခိုက် ကိုယ့်ခန္ဓာ ကိုယ်ကို အခုလို သီလအမွှေးအနံ့တွေနဲ့ တစ်ခါတစ်ခါလဲ စိမ်ထုံ ထားဦးမှပေါ့၊ နို့မဟုတ်ရင် ကိလေသာ အနံ့အသက်တွေကချည်း စိမ်းရွှေရွှေကြီး နံစော်နေမှာ"

"မှန်ပါ၊ ဒီအနံ့ဆိုးတွေက အခုခေတ်ပေါ် အမွှေးအကြိုင် တွေနဲ့ ဖုံးလို့ ဖာလို့မှ မရတာ ဘုရား"

"ဟုတ်ပ့ါ ကိုရွှေပေါက်ကျော်ရယ်၊ တော်လဲ တော်လိုက် တာ"

"အမှန်ကတော့ လူ့ဘဝပဲဖြစ်ဖြစ်၊ နတ်ဘဝပဲဖြစ်ဖြစ်၊ ဘုံသုံးပါးဆိုတာ ကြောက်ကြရမယ်၊ လန့်ကြရမယ်နော်၊ ဘာမို့ လို့လဲဆိုတော့ ၃၁-ဘုံဆိုတာ ချမ်းသာအစစ်ကို ဘယ်မှာမှ ရှာလို့ ဖွေလို့ရတာ မဟုတ်ဘူး၊ ဒါကြောင့် တို့ဘုရားရှင်က ပဋ္ဌိစ္စသမုပ္ပါဒ် တရားတော်မှာ…

"တေသ ဒုက္ခက္ခန္ဓဿ သမုဒယော ဟောတိ"လို့ ဟောခဲ့တာကွ။ သံသရာမှာ ကြဉ်လည်ရတဲ့ ဒုက္ခဆင်းရဲ အစုအပုံကြီးကို ကြောက်ရမယ်၊ လန့်ရမယ်၊ မနှစ်သက်ရဘူးတဲ့"

"ဒါနဲ့ ပြောရဦးမယ်"

"မှန်ပါ၊ အမိန့်ရှိပါ ဘုရား"

"တို့ဘုရားရှင်က ဒီတုန်းက ဇေတဝန်ကျောင်းမှာပဲ၊ ဂန္ဓကုဋီတိုက်ထဲမှာ သီတင်းသုံးနေတယ်၊ အချိန်က ညဉ့်ဘက်သန်းခေါင်အချိန်ရယ်၊ ဒီသန်းခေါင်ချိန်က နတ်တွေ၊ ဗြဟ္မာတွေက ပြဿနာ လာမေးတတ်တဲ့ အချိန်ကိုး"

"မှန်ပါ အရှင်ဘုရား"

"အဲ... နတ်သားတစ်ယောက် ရောက်လာတယ်၊ အမည်နာမတော့ မရှိဘူး၊ သာမန်နတ်သားပဲပေါ့၊ စာထဲကတော့ "အညတြဒေဝတာ"တဲ့၊ ဒါကို ရှေးဆရာများက ဘယ်လို အနက်ပြန်သလဲဆိုတော့...

"အဟမ်း... အဟမ်း... အညတြဒေဝတာ- အမျိုးအမည်အားဖြင့် မထင်ရှားသော နတ်သားသည်၊ အဘိက္ကန္တာယ ရတ္တိယာ- ညဉ့်ဦးယံလွန်ပြီးသော သန်းခေါင်ယံအခါ၌..."

"ဟိုး... ဟိုး ကိုပေါက်ကျော်၊ အံ့မယ်လေး... ရလိုက်တဲ့ စာတွေ၊ မြင်းကောင်း ဒုန်းစိုင်းနေသလိုပဲ၊ မင်း ဘယ်ဆိုးလို့လဲ"

"မဆိုးဆို ရွာဦးကျောင်းထွက်ဘုရား"

"ဟ... ဒီကောင့်နှယ်"

"ဟုတ်တယ်လေ၊ အရင်ဆရာတော်လက်ထက်ကပေါ့"

"ကဲ... ကဲ အဲဒါတွေထား၊ အဲဒီနတ်သားက ဘုရားရှင်ကို ပုစ္ဆာမေးတယ်၊ မေးပုံက..."

"သဗ္ဗညုမြတ်စွာဘုရား၊ အခု လူ့ဘဝက လူတွေဟာ သူ့သဘာဝအလျောက် ဆွေနဲ့မျိုးနဲ့၊ မိနဲ့ဘနဲ့၊ သားနဲ့သမီးနဲ့၊ စည်းစိမ် ဥစ္စာတွေနဲ့ စသဖြင့်ပေါ့ဘုရား၊ ပြည့်ပြည့်စုံစုံ နေထိုင်ကြရပါတယ်။ အဲဒီလူတွေထဲက အချို့ အချို့လူတွေကို ယူဆောင်သွားလို့ ဘာလို့ ပျောက်သွားရပါသလဲ၊ လျော့နည်းသွားရပါသလဲဘုရားတဲ့။

"နတ်သား မေးပုံကလေးပေါ့ကွာ"

"မှန်ပါ အရှင်ဘုရား"

"ဒီတော့ တို့ဘုရားရှင်က ဖြေတယ်၊ ဒီလိုတဲ့...

"အချင်းနတ်သား...

သင်ပြောသလို ပြည့်ပြည့်စုံစုံ နေထိုင်ရာကနေ 'မရဏ' ဆိုတဲ့ သေခြင်းတရားက မကြာမကြာ မပြတ်တမ်းယူဆောင်သွားလို့ ကိုယ်ချစ်လှတဲ့ ဇနီးမယား၊ သမီးသားတွေနဲ့ စီးပွားဥစ္စာတွေကို စွန့်ပစ်ထားခဲ့ပြီး သေမင်းခေါ်ရာကို လိုက်ပါသွားရတာကြောင့် ယုတ်လျော့သွားတာဖြစ်တယ်''လို့ အမိန့်တော် ရှိလိုက်သတဲ့''

''ဒီအခါ နတ်သားက ပြန်လျှောက်ထားတယ်၊ ဒါဆိုလဲ တပည့်တော် နားလည်ပါပြီဘုရား၊ ဒါပေမယ့် သိလိုတာရှိပါသေးတယ်၊ အဲဒီလို သေမင်းက မကြာမကြာ ခေါ်ဆောင်သွားပါလျက်နဲ့ အဲဒီသေခြင်းကလွတ်အောင် ကျင့်ရမယ့် အကျင့်တရားများကို အားမထုတ်နိုင်ကြဘဲ ရှိကြရအောင် ဘယ်တရားက ဖုံးလွှမ်းထားလို့ပါလဲ ဘုရားတဲ့''

အဲလိုလျှောက်တော့ တို့ဗုဒ္ဓမြတ်စွာက...

''အချင်းနတ်သား သေခြင်းတရားက ယူဆောင်နေတာကို လူတွေက မသိမမြင်နိုင်ဘဲ ရှိကြတာက အခြားမဟုတ်ဘူး၊ အိုခြင်း၊ နာခြင်းတရားတွေက ဖုံးလွှမ်းထားလို့ပဲ၊ ဒါကြောင့်မို့ မထင်မမြင်ကြတာတဲ့။

''ဒီတော့ အို၊ နာတရားက ဘယ်လိုဖုံးတယ်ဆိုတာကတော့ ဒီလိုကွ တင်ဝင်းရ...

"အဲ ဆိုပါတော့၊ သေခြင်းတရားက မကြာမကြာမပြတ် မလပ် တွေ့ကြရပေမယ့် အင်း... ငါလဲ ဒီလိုသေရလိမ့်မယ်လို့ မင်းတို့ မအောက်မေ့ဘူး"

"မှန်ပါ"

"အဲ... အဲ... အဲလို ငါလဲသေမှာပဲလို့ မထင်သလို အိုသူတွေ့ရင်လဲ ငါလဲ အိုမယ်လို့မထင်ဘူး၊ သူများနာနေလဲ ငါလဲနာမယ်လို့ မထင်ဘူး၊ ဒီလိုဖြစ်တာက အဝိဇ္ဇာ၊ တဏှာတို့က လူတွေကို ချီးမြှောက်ထားလို့၊ လှည့်စားထားလို့ကွ၊ မအို၊ မနာ၊ မသေဘူးလို့ ထင်နေကြတာ။ အဲလို မအို၊ မနာ၊ မသေလို့ ထင် မှတ်တာကိုပဲ ဖုံးလွှမ်းထား လို့လို့ပြောတာ။

ဒီတော့ နတ်သားက အဝိဇ္ဇာနဲ့ တဏှာဖုံးအုပ်ထားလို့ဆို တာတော့ နားလည်ပါပြီ မြတ်စွာဘုရား။ ဒါပေမယ့် အဲဒီအဝိဇ္ဇာ ဆိုတဲ့တရားက မဖုံးကွယ်နိုင်အောင် ဘယ်လိုများလုပ်ရပါ့မလဲ ဘုရားလို့ မေးပြန်တယ်။

နတ်သားကမေးပြန်တော့ ဘုရားရှင်ကလဲ ဖြေပြန် တယ်။

"ဒီလိုနတ်သား၊ အဲဒီဖုံးကွယ်ထားတဲ့ အဝိဇ္ဇာတို့ မသိမှုကို အဘိဇ္ဈာသုတ် ပွားများဆင်ခြင်ရင် ပျောက်ကင်းနိုင်တယ်။ အဘိဇ္ဈာသုတ် ပါဠိတော်က...

**ပဉ္စိမာနိ ဘိက္ခဝေ ဌာနာနိ အဘိဏှံ ပစ္စဝေက္ခိတဗ္ဗာနိ၊**

**ဇရာဓမ္မောမှိ၊ ဇရံ အနတီတောတိ** ...

**ကတမာနိ ပဉ္စ။**

**ဇရာဓမ္မောမှိ၊ ဇရံ အနတီတောတိ**

**အဘိဏှံ ပစ္စဝေက္ခိတဗ္ဗံ။**

**ဘိက္ခဝေ**-ဘိက္ခုတို့၊ **ပဉ္စ**-ငါးပါးကုန်သော၊ **ဣမာနိ ဌာနာနိ**-ဤအကြောင်းအရာတို့ကို၊ **ဣတ္ထိယာဝါ**-မိန်းမသည်လည်းကောင်း၊ မိန်းမပဲဖြစ်ဖြစ်။ **ပုရိသေနဝါ**-ယောကျ်ားသည်လည်းကောင်း၊ ယောကျ်ားပဲဖြစ်ဖြစ်။ **ဂဟဋ္ဌေနဝါ**-လူသည် လည်းကောင်း၊ လူပဲဖြစ်ဖြစ်။ **ပဗ္ဗဇိတေနဝါ**-ရဟန်းသည်လည်းကောင်း၊ ရဟန်းပဲဖြစ်ဖြစ်။ **ဣမာနိပဉ္စဌာနာနိ**-ဤငါးပါးသောအကြောင်းတို့ကို၊ **အဘိဏှံ**-မပြတ်၊ **ပစ္စဝေက္ခိတဗ္ဗာနိ**-ဆင်ခြင်အောက်မေ့အပ်ကုန်၏။

ကတမာနိ ပဉ္စ- အဘယ် ငါးမျိုးတို့နည်းဟူမူကား...

**အဟံ**-ငါသည်၊ **ဇရာဓမ္မော**-အိုခြင်းသဘောတရားရှိသည်၊ **အမှိ**- ဖြစ်ရချေ၏၊ **ဇရံ**-ထိုအိုခြင်းတရားကို၊ **အဟံ**-ငါသည်၊ **အနတီတော**-မလွန်ဆန်နိုင်ချေ၊ **ဣတိ**-ဤသို့၊ **အဘိဏှံ**-နေ့ညဥ့်မပြတ်၊ **ပစ္စဝေက္ခိ တဗ္ဗံ**-ဆင်ခြင်အပ်၏။

ဒါက ဘုရားဟောတဲ့ အဘိဏှ ပါဠိပါပဲ။ ဒီတော့ အသက်ရှစ်ဆယ်ရွယ်၊ ကိုးဆယ်ရွယ်ရှိတဲ့ အမယ်အို၊ အဘိုးအိုတွေကြည့်။ ရှုံ့စရာကြီးရယ်။ ဆံကဖြူ၊ သွားကကျိုး၊ ခါးကကုန်းနဲ့၊ အကြောတွေက အပြိုင်းပြိုင်း ထလို့။ ငဖြူပဲ၊ ငမဲပဲ၊ ငကြောင်ပဲ၊ ငကျားပဲ စတဲ့ နာမည်ကိုလည်း မမှတ်နိုင်။ အမှန်အကန်မသိ၊ အလွဲလွဲအချော်ချော်နဲ့ဟာ။ အချို့များကျတော့ ကလေးတွေလို ငယ်မူကပြန်နေသေး။

အဲလို အိုဒုက္ခတွေကို မြင်ရ၊ တွေ့ရပေမယ့် ဩော်... ဒီအဘိုးအို၊အဘွားအိုတွေက ပထမ ငါတို့လို ခွန်အားဗလတွေနဲ့ ပြည့်ပြည့်စုံစုံပဲ၊ အသားအရေတွေက ပြည့်ပြည့်ဖြိုးဖြိုးပဲ၊ လှလှပပ၊ တင့်တင့်တယ်တယ်နဲ့၊ နို့ပေမယ့် အခုတော့ မမြဲတဲ့၊ အစိုးမရတဲ့ အစုသာဖြစ်ကြရတာကြောင့် အခုလို အိုရ၊ ရင့်ရ၊ ကြီးရတဲ့အဖြစ်ကို ရောက်ရှာကြတာပဲ။

အဲ... သူတို့သာ အခုလို ကြီးရင့်ရမှာမဟုတ်၊ ငါလဲ ဒီအဘိုးအို၊ အဘွားအိုတွေလို အိုခြင်းတရားကို မလွန်ဆန်နိုင်ဘူး၊ အင်း... အိုရချည်သေးရဲ့၊ အိုရချည်သေးရဲ့လို့ စိတ်ထဲ နှလုံးသားထဲမှာ ကွက်ကွက်ကွင်းကွင်းကြီး ထင်ထင်ပေါ်ပေါ်ကြီးကို မြင်လာအောင် ဆင်ခြင်ရမှာတဲ့"

"မှန်ပါ့ အရှင်ဘုရား"

"ဟို... ပေါက်ကျော်၊ နားလည်လား"

"နားလည်ပါတယ်ဘုရား၊ ဒီနေ့ကစပြီး အိုတဲ့ အဘိုး၊ အဘွားတွေတွေ့ရင် ငါလဲ သူ့လိုအိုရမှာလို့ နှလုံးသွင်းပါ့မယ်ဘုရား"

"သာခုဗျား၊ မောင်ပေါက်ကျော်"

အဲတစ်ခါ၊ နှစ်အချက် ပါဠိက...

**ဗျာဓိဓမ္မောမှိ၊ ဗျာဓိံ အနတီတော၀ှိ။**

**အဘိဏှံ ပစ္စဝေက္ခိတဗ္ဗံ-**တဲ့။

**အဟံ**-ငါသည်၊ **ဗျာဓိဓမ္မော**-နာခြင်းသဘောတရားရှိသည်၊ **မေ**-ငါ့အား၊ **အမှိ**-ဖြစ်ရချေ၏။ ဗျာဓိ-ထိုနာခြင်းသဘော

တရားကို၊ **အဟံ**-ငါသည်၊ **အနုတီတောတိ**-မလွန်ဆန်နိုင်ချေဟူ၍၊ **အဘိဏှံ**-နေ့ ညဥ့်မပြတ်၊ **ပစ္စဝေက္ခိ တဗ္ဗံ**-ဆင်ခြင်အပ်၏။

"အခု နှစ်အချက်က မောင်တင်ဝင်းရဲ့ ဘာတဲ့လဲကွ"

"ဗျာဓိဆိုတဲ့ နာခြင်း သဘောတရားပါ"

"ဟုတ်ပြီ၊ နို့… ပေါက်ကျော် ရောဂါသည်ကို မတွေ့ဖူးဘူးလား"

"တွေ့ဖူးပါတယ်ဘုရား၊ ဟိုအနောက်ပိုင်းက ဒေါ်အေးတို့များ အခုဆို ပက်လက်ကလေး နေရရှာတယ်၊ ညာဘက်စောင်းချင်လည်း မစောင်းနိုင်၊ ဘယ်ဘက်စောင်းချင်လည်း မစောင်းနိုင်နဲ့။ ဘေးကဘီကနေ လူတွေက စောင်းပေးမှ စောင်းလို့ရပါတယ်ဘုရား"

"အေး ဟုတ်တယ်၊ တချို့ဆို ထမင်းလည်း မစားနိုင်ဘူး ရေတောင် မသောက်နိုင်၊ မျိုမချနိုင်နဲ့ဟာ၊ အလွန့်ကို ပင်ပင်ပန်းပန်း ဖြစ်နေကြရှာတာ"

"အဲလိုလူနာတွေကို မြင်ရင် ငါလဲ တစ်နေ့ အခုလိုနာမှာပဲလို့ သတိကပ်လို့လား"

"ကပ်ခဲပါတယ် ဘုရား၊ အို… ကျွတ်ကျွတ်၊ သနားစရာ ကောင်းလိုက်တာ၊ ဒီပုဂ္ဂိုလ် သိပ်ကြာမယ် မထင်ဘူးလို့ ပြောကြပါတယ် ဘုရား"

"အဲဒီမယ် ငါလဲ အခုလို နာမယ်လို့ မတွေးဘူးနော်၊ ဒကာသန့်ဇင်"

"မှန်ပါ အရှင်ဘုရား၊ ဟိုကောင် ပေါက်ကျော်ဆို ဖဲရိုက်ရမယ့်ရက်များ လက်ချိုး ရေတွက်နေမလား မသိဘူး"

"ဟာ… ဒီသန့်ဇင်၊ ပြောရှာမယ်၊ ဘယ်ကလာ တွက်ရမှာလဲ၊ သနားစရာလို့ပဲ တွေးတာပါ"

"အဲ… အဲ မောင်တင်ဝင်းရေ၊ အမှန်က နားတဲ့ လူတွေလဲ တွေးရမှာ"

"အရင်က ဒီလူ သိပ်ကျန်းမာသန်စွမ်းတာ၊ ဟိုဟိုဒီဒီ သွားလိုက်၊ လည်ပတ်လိုက်၊ ပျော်ပါးလိုက်နဲ့နေတာ"

"ဟော… အခုတော့ ညာဘက်၊ ဘယ်ဘက် ပြောင်းချင်ရင် သူများ ပြောင်းပေးမှ ပြောင်းရရှာတယ်၊ သူ့ဘာသာသူ မပြောင်းနိုင်၊ ဘယ်ဘက်ကနေ ညာဘက်လှည့် စောင်းချင်လဲ ဒီလိုပဲ သူများပြောင်းပေးမှ ပြောင်းနိုင်ရှာတာ။

"အင်း... သူ့ဝေဒနာက ဆင်းရဲလိုက်တာ၊ တကယ်တော့ သူ့ချည်းသာ ဒီဝေဒနာက စွဲကပ်တာမဟုတ်ဘူး၊ တစ်နေ့ ငါလဲ စွဲကပ်မှာပဲ။ သူ့လိုဝေဒနာစွဲကပ်ရင်လဲ ငါက ဒီဝေဒနာကို လွန်ဆန် နိုင်မှာမဟုတ်ဘူး။ သမားအကျော်အမော်တွေနဲ့ ကုသပေမယ့် အခိုက်အတန့်သာ ချမ်းသာပြီး နောက်ထပ်လာဦးမှာ"

"လူနာသွားကြည့်ပြီး မသက်သာရှာပါဘူး၊ သေမှာပါ လောက်ရင် မတွေးရဘူး၊ အင်း... တစ်နေ့ ငါလဲ နာရမှာ၊ နာရ မှာလို့ တွေးမိတဲ့အထိ တွေးရမှာ။

"အင်း... နာရချည့်သေးရဲ့၊ နာရချည့်သေးရဲ့လို့ စိတ်ထဲ မှာ မပြတ်မလပ် အကြိမ်ကြိမ် အထပ်ထပ် ဆင်ခြင်နေရမှာ"

"မှန်ပါ အရှင်ဘုရား"

"နို့... အလုပ်တွေ ဘာတွေ လုပ်နေရင်ကော၊ ဟာ... ဒါလဲ ရတာပဲ၊ အခုတော့ ငါ့မှာ သန်တုန်းမြန်တုန်းမို့ ရောဂါ ဝေဒနာ မစွဲကပ်ခင်လေးမို့ လုပ်နိုင်ကိုင်နိုင်တာ၊ တစ်နေ့ ဟို... အနောက်ပိုင်းက ဒေါ်အေးကြီးလို နာရဦးမှာလို့ နှလုံးသွင်းပေါ့ကွ"

"အေး... ဟုတ်သားပဲ ပေါက်ကျော်ရ၊ မင်းဟာကလဲ"

"နားလည်ပါပြီ ဘုရား"

နောက် သုံးအချက်က...

**မရဏာဓမ္မောမှိ မရဏံ အနတီတောတိ၊**

**အဘိဏှံ ပစ္စဝေက္ခိတဗ္ဗံ**-တဲ့။

**အဟံ**-ငါသည်၊ **မရဏဓမ္မော**- သေခြင်းသဘောရှိသည်၊ **မေ**-ငါ့အား၊ **အမှိ**-ဖြစ်၏၊ **မရဏံ**- ထိုသေခြင်းသဘောတရားကို၊ **အဟံ** -ငါသည်၊ **အနတီတောတိ**-မလွန်ဆန်နိုင်ချေဟူ၍၊ **အဘိဏှံ**-နေ့ညဥ့်မပြတ်၊ **ပစ္စဝေက္ခိတဗ္ဗံ**- ဆင်ခြင်အပ်၏တဲ့။

"အဓိပ္ပာယ်က ဒီလိုကွ...

"သေတဲ့သူတွေ့ရင်လဲ ဒီလူ အရင်က ငါ့လို သန်သန် မာမာကြီး၊ အားကောင်းမောင်းသန်ကြီးရယ်၊ အသိပညာ အလိမ္မာနဲ့ လွတ်ပြည့်စုံတဲ့သူ၊ ဆွေဂုဏ်မျိုးဂုဏ်၊ ဥစ္စာခနဲဂုဏ်တွေနဲ့ ကလဲ ပြည့်စုံပါဘိနဲ့၊ သူ့ကို ဝိုင်းဝန်းနှိပ်စက်ဖို့ မပြောနဲ့ သူ့နာမည် ကိုတောင် ရင့်ရင့်သီးသီးကြီး ခေါ်ဝံ့ကြတာ မဟုတ်ဘူး။

"အခုတော့ ငှက်ပျောတုံး၊ လက်ပံတုံးကြီးတွေလို လူ ပရိသတ်ကြားမှာ စင်းစင်းကြီး မလှုပ်နိုင် မရှားနိုင်နဲ့ ဖြစ်ရှာ သကိုး။

"အခုနေ အခြားလူတွေက တုတ်တွေ၊ ဓားတွေနဲ့ လာ ရောက်ပြီး ရိုက်ကြ၊ ခုတ်ကြရင်တောင် အရင်ကလို ပြန်မလုပ်နိုင်

ရှာဘူး၊ အရင်ကဆို ဘယ်ရမလဲ၊ ဟော့ ငါ့မှာ ဆွေဂုဏ်- မျိုးဂုဏ် နဲ့နေတယ်ကွ၊ မင်းတို့လို ငမွဲငတေမဟုတ်ဘူး၊ ရွှေနဲ့ငွေနဲ့၊ လယ် ယာကိုင်းကျွန်းနဲ့၊ ကျွဲနဲ့နွားနဲ့ကွ။ ဟော့... ထိရဲ ထိကြည့်စမ်းနဲ့ စိမ်ခေါ်ပစ်လိုက်မှာ၊ အခုတော့ သူ ဘာတတ်နိုင်တော့မှာလဲ။

"အင်း... သေခြင်းတရား၊ သေခြင်းတရား၊ တစ်နေ့ကျ ငါလဲ သူ့လို သေမှာ၊ သေခြင်းတရားကို ငါလဲ မလွန်ဆန်နိုင်ဘူး"

"အဲလိုသေရချည့်သေးရဲ့၊ သေရချည့်သေးရဲ့လို့ စိတ်ထဲ မှာ ကြောက်ရွံ့တုန်လှုပ်လာအောင် အထပ်ထပ်အခါခါ ဆင်ခြင်နေ ရမှာတဲ့"

"မှန်လှပါ အရှင်ဘုရား"

"အေး... လေးအချက်က...

**သဗ္ဗေဟိ မေ ပိယေဟိ မနာပေဟိ နာနာဘာဝေါ ဝိနာ- ဘာဝေါတိ၊ အဘိဏှံ ပစ္စဝေက္ခိတဗ္ဗံ** -တဲ့။

မေ-ငါ့အား၊ **ပိယေဟိ**-ချစ်ခင်မြတ်နိုးအပ်ကုန်သော၊ **မနာပေဟိ**-နှစ်လိုခြင်းကို ပွားစေတတ်ကုန်သော၊ **သဗ္ဗေဟိ**- ခပ်သိမ်းကုန်သော၊ **ဉာတကေဟိ**-ဆွေမျိုးသားချင်းတို့နှင့်၊ **နာနာ ဘာဝေါ**-အထူးထူးသော အကြောင်းတို့ကြောင့် တစ်ရပ်တစ်ရွာ

ပြောင်းလွဲသဖြင့် ကွေကွင်းရခြင်းသည်လည်းကောင်း၊ **ဝိနာဘာဝေါ**- အသက်ခန္ဓာ ပျက်ကြွေသေသဖြင့် ကွေကွင်းရခြင်းသည် လည်းကောင်း၊ **အမှိ**-ဖြစ်ရလေ၏၊ **ဣတိ**-ဤသို့ကွေကွင်းရခြင်း သဘောကို၊ **အဘိဏှံပစ္စဝေက္ခိတဗ္ဗံ**- နေ့ညဥ့်မပြတ် ဆင်ခြင်အပ် ၏တဲ့။

"ကဲ... ပေါက်ကျော်ကိုပဲ မေးရဦးမယ်၊ မင့်ဇနီးကို မချစ်ဘူးလား"

"သိပ်ချစ်တာပေါ့ဘုရား၊ တပည့်တော် သားနဲ့သမီးကိုလဲ သိပ်ချစ်ပဲ၊ သူတို့ချမ်းချမ်းသာသာနေနိုင်အောင် တပည့်တော် ကုန်း ရုန်းရှာဖွေနေတာပေါ့"

"အဲ... ဟုတ်ပါ့ကွ၊ အခု မင့်သားကြီးက ဘယ်မှာလဲ၊ မင်းနဲ့အတူလား"

"မဟုတ်ဘူးဘုရား၊ မိန်းမရပြီး သူ့မိန်းမနဲ့ လိုက်နေတယ်"

"မင်း ချစ်တယ်ဆို၊ ဘာလို့ ခွဲနေရတာလဲ"

"တားမရဘူး ဘုရား၊ မယားနောက် ကောက်ကောက် ပါအောင် လိုက်သွားတော့လဲ ဘာတတ်နိုင်မှာလဲ၊ သူ့အမေဆို မျက်ရည်လေး တစမ်းစမ်းနဲ့ ဖြစ်နေခဲ့ရှာတယ်"

"အေး... အဲဒီလို ကိုယ်ချစ်တဲ့ မိဘဆွေမျိုး၊ ဇနီးမယား၊ လင်သား၊ သားသမီးတွေနဲ့ကင်းကွာပြီး တစ်ရပ်တကျေးဆီနေရတာကို နာနာဘာဝလို့ ခေါ်တာ၊ ဝိနာဘာဝကတော့ သေသွားလို့ တစ်ခါတည်း အပြီးအပြတ် ကွဲကွာသွားကြရတာ။

"အဲလို ကိုယ်ချစ်ရ၊ မြတ်နိုးရ၊ ခင်တွယ်ရ၊ သံယောဇဉ်တွယ်တာရတဲ့ ပုဂ္ဂိုလ်တွေနဲ့ တစ်နေ့ကျ ကွေကွင်းရဦးမှာပါကလားလို့လဲ နေ့ညမပြတ် ဆင်ခြင်ရမယ်တဲ့။

"အဲလို ဆင်ခြင်နှလုံးသွင်းနေရင် တစ်နေ့ ရှောင်မရလို့ ကွေကွင်းကြပြီဆိုပါတော့ ဒါခံနိုင်ရည်ရှိလာတယ်၊ တို့ပရိဒေဝမီးတို့ ဒုက္ခ၊ ဒေါမနဿ၊ ဥပါယာသ မီးတို့ဆိုတာတွေ ကိုယ့်မှာ အလောင်အကျွမ်း မရှိဘူးမှတ်။ နို့မဟုတ်ရင်တော့လား ဘာပြောကောင်းမလဲ ပေါက်ကျော်တို့ဆို ကျွမ်းပစ်သွားမှာ"

"ဟုတ်မယ်ဘုရား သူ့ကြည့်ရတာ"

"အံမယ်... မောင်တင်ဝင်းက သူက လူပျိုကြီးမို့လား"

"ဟင်း... ဝေးသေး၊ ရှာဦးကျောင်းဆရာတော် တပည့်ပါဆိုမှ ဟဲဟဲ"

"ကဲ... နောက် ငါးနံပါတ်အချက်က...

**သဗ္ဗေ သတ္တာ ကမ္မဿကာ၊ ကမ္မဿကောမှိ၊ ကမ္မဒါယာဒေါ၊ ကမ္မယောနိ ကမ္မဗန္ဓူ၊ ကမ္မပဋိသရဏော၊ ယံ ကမ္မံ ကရိဿာမိ ကလျာဏံဝါ ပါပကံဝါ တဿ ဒါယာဒေါ ဘဝိဿာမီတိ အဘိဏှံ ပစ္စဝေက္ခိတဗ္ဗံ**-တဲ့။

**သဗ္ဗေ**-ခပ်သိမ်းကုန်သော၊ **သတ္တာ**-သတ္တဝါတို့သည်၊ **ကမ္မဿကာ**-ကံသာလျှင် ကိုယ်ပိုင်ဥစ္စာ ရှိကုန်၏၊ **ကမ္မဒါယာဒေါ**-ကံသာလျှင် အမွေခံဥစ္စာရှိသည်၊ **ကမ္မယောနိ**-ကံသာလျှင် အကြောင်းရင်းရှိသည်၊ **ကမ္မဗန္ဓူ**-ကံသာလျှင် အဆွေအမျိုးရှိသည်၊ **ကမ္မပဋိသရဏော**-ကံသာလျှင် မှီခိုကိုးကွယ်ရာရှိသည်၊ **အမှိ**- ဖြစ်၏။

**ကလျာဏံဝါ**-ကုသိုလ်ကံကိုလည်းကောင်း၊ **ပါပကံဝါ**-အကုသိုလ်ကံကိုလည်းကောင်း၊ **ကရိဿာမိ**-ပြုလတ္တံ့၊ **တဿ ကမ္မဿ**- ထိုကုသိုလ်၊ အကုသိုလ်ကံ၏၊ **ဒါယာဒေါ**-အမွေခံသည်၊ **ဘဝိဿာမီတိ**-ဖြစ်ရလတ္တံ့ ဟူ၍၊ **အဘိဏှံ**-နေ့ညဉ့်မပြတ်၊ **ပစ္စဝေက္ခိတဗ္ဗံ**-ဆင်ခြင်အပ်၏။

"ကဲ... ကိုပေါက်ကျော်၊ နံပါတ်ငါးအချက်က ဒီလိုကွ၊ အခု မင်းတို့၊ ငါတို့ လူ့ဘဝမှာ နေကြရတာဟာ နောက်နောက်

ဘဝတွေက တို့လုပ်ခဲ့တဲ့ ကံရင်းအတိုင်းပဲ။ ကံကို တို့မလွန်ဆန်နိုင်ကြဘူး။ အဲ... ရမယ့်ကံ၊ ချမ်းသာမယ့်ကံ၊ စားရ သောက်ရမယ့်ကံ လုပ်ခဲ့ရင်လဲ အခုဘဝမယ် ရမှာပဲ၊ ချမ်းသာမှာပဲ၊ စားရ-သောက်ရမှာပဲပေါ့၊ အဲ... ဆင်းရဲမယ့်ကံ၊ မွဲတေမယ့်ကံ၊ မစား-မသောက်ရမယ့်ကံတွေ လုပ်ခဲ့ရင်လဲ ဆင်းရဲကြမယ်၊ မစား၊ မသောက်ရဘဲ ငတ်နေကြမယ်၊ မွဲတေနေကြမှာပဲ၊ အဲလို ကံကို ယုံကြည်ရမယ်နော်၊ အရင်က ငါ့ကံကောင်းခဲ့လို့ အခုလိုလူဖြစ်ရတယ်၊ သွားတဲ့အခါကျတော့လဲ ငါ့ကံနဲ့ ငါသွားရဦးမှာ၊ သူများအားကိုးလို့မရ၊ ငါ့ကိုယ်သာ ငါအားကိုးရမှာ၊ ငါ့ကိုယ်သာ ငါ့အဖို့ ကိုးကွယ်ရာပဲ။ ယုတ်ညံ့တယ်၊ မြတ်တယ်ဆိုတာ ငါလုပ်ခဲ့တဲ့ ကုသိုလ်ကံ၊ အကုသိုလ်ကံတို့က ဝေဖန်ပေးတာကြောင့် ဖြစ်ရတာပါကလား။ ပြုပြင်လို့ ဘယ်လိုလုပ်ရမှာလဲလို့ မှတ်ရမှာ။ ဆင်ခြင်ရမှာ။

"ဥပမာကွာ... တရားသူကြီး ဆိုပါတော့၊ သူက အဂတိမလိုက်စားဘဲနဲ့ အမှုကို အမှန်အတိုင်း ဆုံးဖြတ်ပေးလိုက်လို့သာ အနိုင်-အရှုံးဆိုတာ ဖြစ်ပေါ်ရတာကိုး။

"အဲဒီလိုပဲ တို့လုပ်တဲ့ ဒုစရိုက်အမှု၊ သုစရိုက်အမှုအား လျော်စွာပဲ တရားသူကြီးနဲ့တူတဲ့ ကံက စီရင်ပေးလိုက်တာမို

မငြင်းမဆန်နိုင်ဘဲ ဆင်းရဲတို့၊ ချမ်းသာတို့ကို ခံစားရတာ၊ ဘယ်သူ မှ မလွန်ဆန်နိုင်ဘူး၊ ထပ်ပြီး အလှူခံလို့လဲ မရဘူး၊ ဆင်းရဲကံက ဆင်းရဲစေမှာပဲ၊ ချမ်းသာကံက ချမ်းသာစေမှာပဲလို့ ဆင်ခြင်ပွားများ ရမှာ"

"မှန်ပါ အရှင်ဘုရား"

"ဗုဒ္ဓက... **ယောဿကမ္မံ ပဋိပဇ္ဇတိ၊ သော ဘိက္ခုနာမ ဟောတိ**"တဲ့။

"**ယောစ**-အကြင်သူသည်လည်း၊ **ကမ္မံ ပဋိပတ္တိ**-ဤသို့ သော တရားအကျင့်ကို၊ **ပဋိပဇ္ဇတိ**-ကျင့်၏၊ **သော**-ထိုသူသည်၊ **ဘိက္ခုနာမ**- ဘိက္ခုမည်သည်၊ **ဟောတိ**-ဖြစ်၏"

"**ပဋိပန္နကော ဒေဝေါ ဝါ မနုဿော ဝါ ဘိက္ခုသင်္ချံ ဂစ္ဆတိ**"တဲ့။

"**ပဋိပန္နကော**-တရားကျင့်သူသည်၊ **ဒေဝေါ ဝါ ဟောတု**-နတ်ပဲဖြစ်ဖြစ်၊ **မနုဿောဝါ ဟောတု**-လူပဲဖြစ်ဖြစ်၊ **ဘိက္ခုသင်္ချံ**-ဘိက္ခုလို့ ခေါ်ဝေါ်ခြင်းသို့၊ **ဂစ္ဆတိ**-ရောက်၏-တဲ့ဗျား"

"ဟဲ့ ကိုပေါက်ကျော်၊ တရားကို ကြိုးစားအားထုတ်ရမှာ တဲ့၊ အဲလို အမြဲမပြတ် အားထုတ်နေရင် ငါဟာ လူဝတ်ကြောင်

ပါလားလို့ ထင်မနေနဲ့၊ တရားအကျင့်ကို ကျင့်နေရင် ယောကျ်ားပဲ ဖြစ်ဖြစ်၊ မိန်းမပဲဖြစ်ဖြစ် ဘိက္ခုလို့ပဲ ခေါ်ရသတဲ့။

"ဟုတ်လား မောင်တင်ဝင်း"

"တင်ဝင်းတော့ မသိဘူး၊ ဖိုးသိန်းအောင်၊ ကျွန်တော်ကတော့ ဘိက္ခုပါပဲ"

"ဟ... ဘာလို့လဲကွ"

"တရားအကျင့်ကို ကျင့်နေလို့လေ၊ ဟဲ ဟဲ"

"နို့... မင်းက ဘယ်လိုကျင့်လို့လဲ"

"ရွာဦးကျောင်း တပည့်ပါဆိုမှ၊ အခုပဲ အိုမယ်၊နာမယ်တွေ ဆင်ခြင်နေပြီလေ"

"ဒီကောင် အတော်နောက်တယ်"

"အေးအေး... မောင်တင်ဝင်းတို့၊ ကိုသိန်းအောင်တို့၊ ကိုသန့်ဇင်တို့တစ်တွေ အခု ဘုန်းကြီး ရှင်းပြတဲ့ အဘိဇ္ဈာသုတ်လာ တရားငါးပါးကို အမြဲမပြတ် ပွားများဆင်ခြင်ကြပေတော့"

"ဒါမှလဲ မသိမှု အဝိဇ္ဇာ ဖုံးလွှမ်းထားလို့ ဇာတိ ပဋိသန္ဓေနေမှု၊ ဇရာ-အိုမှု၊ ဗျာဓိ-နာမှု၊ မရဏ-သေမှုဆိုတဲ့ ဒုက္ခတွေမှ ကင်းလွတ်ကြရမှာ"

"သာဓု သာဓု သာဓုပါ ဘုရား"

"အဲ... မောင်ပေါက်ကျော်က သာဓုတွေ ဘာတွေ အလေးအနက်ခေါ်လို့"

"ခေါ်ရပြီပေါ့ ဖိုးတင်ဝင်းရာ... စိတ်ထဲ ကြည်နူးလွန်းလို့"

"ပေါက်ကျော်... သာဓုခေါ်တာ သာမန် မအောက်မေ့နဲ့၊ အလွန်အကျိုးများတာ"

"အဲဒါလေး အမိန့်ရှိပါ ဘုရား"

"အဲ... တို့ဘုရား လက်ထက်ကပေါ့ အရှင်အနုရုဒ္ဓါ မထေရ် ဆိုတာရှိတယ်၊ ဗုဒ္ဓရဲ့ညီတော်ပါပဲ၊ အဲ... ဆိုပါတော့၊ အရှင်အနုရုဒ္ဓါမထေရ်က သူ နတ်ပြည်ကြွလိုကြောင်း ဗုဒ္ဓထံ ခွင့်ပန်တော့ ဗုဒ္ဓကလည်း သွားခွင့်ပြုလိုက်သတဲ့။

"အဲဒါနဲ့ အရှင်မြတ် တာဝတိံသာနတ်ပြည် ကြွသွားတယ်၊ ဟိုရောက်တော့ သင့်တဲ့နေရာမှာတွင် ရပ်တည်အရှင်သူမြတ် တို့ စံပယ်ခြင်းမျိုးနဲ့ စံပယ်နေထိုင်နေတယ်။

ဒီအခါမှာ စတုရာဇ်နတ်ဘုံက နတ်သားနဲ့ ယာမဘုံက နတ်သားတို့ဟာ အရှင်သူမြတ်ကို လာရောက်ဖူးမြော်ကြတယ်။

"ဒီနတ်နှစ်ပါးတို့ အခုလိုနတ်ပြည်ရောက်လာခြင်းရဲ့ အကြောင်းရင်းက ဒီလိုတဲ့ မောင်တင်ဝင်းရဲ့"

"မှန်ပါ၊ အမိန့်ရှိပါ အရှင်ဘုရား"

"ဟို... စတုမဟာရာဇ်နတ်ဘုံက နတ်သားက လူ့ပြည်မှာတုန်းက ဇရပ်၊ တန်စောင်း ဆောက်လုပ်လှူဒါန်းတဲ့ ကုသိုလ်ကံ ကြောင့် စတုမဟာရာဇ်နတ်ဘုံမှာ နတ်သားလာဖြစ်ရတာ၊ နောက် နတ်သားကတော့ ဇရပ်၊ တန်စောင်း ဆောက်နိုင်ရှာတာ မဟုတ်ဘူး။ အဲဒီ ဇရပ်၊တန်ဆောင်းဆောက်ပြီး လှူဒါန်းတဲ့ ပွဲမှာ အဖိတ်ခံရလို့ သဒ္ဓါဆန္ဒဖြင့် သာဓုခေါ်တဲ့အကျိုးကြောင့် ယာမာနတ်ဘုံမှာ နတ်သားဖြစ်တာတဲ့။

"အခု အဲဒီနတ်သားနှစ်ပါးဟာ အရှင့်ကို လာဖူးကြတာ ဆိုပဲ။ ဒီတွင် စတုမဟာရာဇ်နတ်ဘုံက ကုသိုလ်ရှင်နတ်သားရဲ့ အရှိန်အဝါတို့ အခြွေအရံတို့ဟာ အရောင်အဆင်း သိပ်မတောက်ဘဲ မွဲခြောက်ခြောက်ရယ်ဆိုပဲ။

"အဲဒီလို စည်းစိမ်နည်းပါးပုံကို မြင်ရတော့ ယာမာ နတ်သားက ပြုံးလိုက်တယ်၊ သူကတော့ ဗိမာန်ဆိုလဲ ဟီးတိုက်

နေတာ၊ အရှိန်အဝါတွေကလည်း တပြိုးပြိုး တပြောင်ပြောင်၊ အခြွေအရံ အသင်းအပင်းကလဲ အောတိုက်ယူရအောင် များပြားနဲ့။

"ဒါနဲ့ စတုမဟာရာဇ်နတ်သားက မေးတယ်၊ အရှင်နတ်သားရယ်တဲ့၊ အရှင်နတ်သားကတော့ အခြံအရံ နတ်သား၊ နတ်သမီးတွေကလဲ များမှများပဲ၊ ကိုယ်ရောင်ကိုယ်ဝါတွေကလဲ ထိန်ထိန်ညီနေတယ်၊ ဘုံဗိမာန်ကြီးကလဲ ဟီးတိုက်နေတာပဲ၊ ဒါနဲ့ များ အရှင့်ကို ဘယ်လိုမှ ယှဉ်ပြိုင်မရအောင် အဘက်ဘက်က ချူချာနေတဲ့ ကျွန်ုပ်ကို ဘာ့လို့ပြုံးရယ်ရတာလဲ အရှင်နတ်သား၊ ပြုံးရယ်ရတဲ့အကြောင်းကို အမိန့်ရှိပါလို့ မေးရော။

"မေးတော့ ယာမာနတ်သားက ပြုံးရယ်တဲ့အကြောင်းက ဒီလိုပါ၊ လောကမယ် မြင့်သင့်လျက်က နိမ့်ကျ၊ နိမ့်ကျသင့်လျက် မြင့်တက်ရတဲ့ အဖြစ်ကိုတွေးမိပြီး ပြုံးတာပါ နတ်သားရယ်။

"ကဲ... သင့်ပဲမေးမယ်၊ သင် အခုလို စတုမဟာရာဇ် နတ်သား ဘာလို့ဖြစ်တာလဲ"

"လူ့ပြည်တုန်းက ဇရပ်၊ တန်ဆောင်း ဆောက်လုပ်တယ်၊ ရေစက်ချပွဲမှာ မိတ်ဆွေသင်္ဂဟတွေဖိတ်ပြီး အမြိန်အရသာတွေကို ကျွေးမွေးတယ်၊ အဲဒီကောင်းမှုကြောင့်ပဲ"

"ဒါဆိုရင် အဲဒီဖိတ်ကြားတဲ့ မိတ်ဆွေသင်္ဂတွေထဲမှာ ဒီလိုအမည်ရှိတဲ့သူကော မပါဘူးလားလို့ မေးပြန်တယ်။

"ဟာ... ပါတာပေါ့၊ သူ့ကို ကောင်းကောင်းမွန်မွန်ကို ကျွေးမွေးဧည့်ခံလိုက်ပါတယ်"

"ဟုတ်ပါတယ်၊ ပါပါတယ်၊ အဲဒီလူဟာ ကျွန်ုပ်ပါပဲ"

"ဒါဆိုရင် အရှင်နတ်သားဟာ"

"ဟုတ်ပါတယ် အရှင့်မိတ်ဆွေပါ၊ အရှင်က ဇရပ်၊ တန်ဆောင်း ကုသိုလ်ရှင်ပါ၊ ကျွန်ုပ်က အဲဒီအလှူလာပြီး သင် အမှုဝေတာကို သာဓုခေါ်တဲ့သူပါလို့ပြောတော့။

"အရှင်အနုရုဒ္ဓါက ဒါဆိုရင် အရှင်နတ်သားတို့ရဲ့ ကုသိုလ်အကျိုးကို အခြားလူတွေ စံနမူနာယူရအောင် ငါ့အား လျှောက်ထားကြစမ်းပါလို့"ဆိုတော့

ယာမာနတ်သားက...

"အရှင်အရုနဒ္ဓါ၊ တပည့်တော်ဟာ လူ့ဘုံတုန်းက ဆင်းရဲ သားပါ၊ စားဖို့ သောက်ဖို့လောက်ပဲ ရှိတာပါ။ အပိုအလှူ မရှိပါဘူး၊ ဆင်းရဲတော့ သီလဆောက်တည်တာတို့၊ ဘာဝနာ ကမ္မဋ္ဌာန်းစီးဖြန်းတာတို့လဲ မပြုနိုင်ပါဘူး"

"အဲ... ဒီစတုမဟာရာဇ်နတ်သား ဇရပ်၊တန်ဆောင်း ဆောက်ပြီး ရေစက်ချတဲ့ အလှူပွဲကျမှ အဖိတ်အကြားခံရပြီး သူ့အမှုကုသိုလ်ကို ယုံယုံကြည်ကြည်နဲ့၊ ကံရဲ့အကျိုးကို အလှူရှင်ထက် ပိုမိုယုံကြည်ပြီး သာဓု-သာဓုလို့ ခေါ်လိုက်တဲ့ ကုသိုလ်ကံကြောင့် သူ့ထက်သာပြီး အခုလို ယာမာနတ်ဘုံကို ရောက်ရတာပါ။

"အခု ဒီမှာဖြစ်နေပုံက အလှူရှင်က တပည့်တော်ထက်နိမ့်ကျတဲ့ စတုမဟာရာဇ်နတ်ဘုံမှာ နတ်ဖြစ်၊ တပည့်တော်ကကိုယ်ရောင်ကိုယ်ဝါလဲ တောက်ပ၊ ဘုံဗိမာန်ကြီးကလဲ တဝင်းဝင်းတထိန်ထိန်နဲ့ နတ်သမီး၊ နတ်သား အခြံအရံတွေက အများအပြားနဲ့ ယာမာနတ်တို့ရဲ့စည်းစိမ်ကို ခံစားနေရတာပါ။

"ဒါကြောင့်မို့ အရှင်မြတ် လူ့ပြည်ပြန်ရောက်တဲ့အခါ တပည့်တော်ကို စံထားပြီး သာဓုအနုမောဒနာခေါ်ရတဲ့ ကုသိုလ်ကံအကျိုးကို အလွန်ကြီးကျယ်ကြောင်း ဟောပြပါ အရှင်ဘုရားလို့လျှောက်ထားသတဲ့။ အဲဒီလို လျှောက်ထားပြီး နတ်သားနှစ်ပါးလဲ ကိုယ့်ဗိမာန် ကိုယ်အသီးသီး ပြန်သွားကြရောတဲ့။

"ဘယ်နှယ် ပေါက်ကျော် ကြားတယ် မဟုတ်လား"

"ကြားပါတယ် ဘုရား၊ တပည့်တော်တို့လဲ လေးလေး စားစား ယုံယုံကြည်ကြည်နဲ့ သာဓုခေါ်တော့မှာ ဘုရား"

"အေး... ကောင်းပါ့ကွာ၊ ဒါနဲ့ ဆက်ပြောရဦးမယ်၊ အချိန်က သိပ်ညဥ့်နက်နေပြီလား"

"အစောကြီးဘုရား၊ ခုမှ ၉-နာရီပဲ ရှိသေးတာ၊ ဆက် အမိန့်ရှိပါ ဘုရား၊ တပည့်တော်တို့က အခုလို ဥပုသ်ညလေး ဘာလေးမှ အနားယူပြီး အခုလို အေးအေးဆေးဆေး နာခံမှတ်သား သွားရတာပါ"

## တာဝတိံသာနတ်သား

"အေး... အေး အဲဒီနတ်သားနှစ်ပါးပြန်တော့ တာဝတိံ သာ နတ်သားတစ်ယောက်ကလဲ သူ့အခြံအရံ နတ်တွေကို လာကြဟေ့... ဗုဒ္ဓမြတ်စွာရဲ့ ညီတော်ဖြစ်တဲ့ အရှင်အနုရုဒ္ဓါမထေရ် ကြွလာတယ်၊ ဒါဟာ တို့ကိုလာချီးမြှောက်တာပဲ၊ သွားရောက် ဖူးမြော်ကြရအောင်လို့ နှိုးဆော်လိုက်သတဲ့"

"ဒါဆို တပည့်တော်တို့လိုပဲပေါ့"

"အေးပေါ့၊ ဒကာ တင်ဝင်းရ"

"တပည့်တော်တို့လဲ ဧည့်သည် အာဂန္တု ဆရာတော် တစ်ပါးပါးများကြွလာရင် ဘယ်သူရေ၊ ဘယ်ဝါရေနဲ့ အကြောင်း ကြားပြီး သွားဖူးကြတာ"

"အေး... ဟုတ်တယ်၊ တို့လိုပဲ၊ ဒါနဲ့ အဲဒီတာဝတိံသာ နတ်သားရဲ့ ကိုယ်ရောင်ကိုယ်ဝါတွေက အလွန်ကို ထိန်ညီးနေတာ၊ အခြွေအရံတွေကလဲ အများကြီးနဲ့၊ အဲဒါ အုတ်အုတ်ကျက်ကျက်နဲ့ အရှင်မြတ်ထံ ရောက်လာကြရော။

"ရောက်တော့ အရှင်မြတ်က နတ်သားရယ်၊ သင့်စည်း စိမ်ကလဲ ကြီးကျယ်လိုက်တာ၊ ကြယ်တာရာ နက္ခတ်တွေ ခြံရံထား တဲ့ လမင်းလို၊ သောက်ရှူးကြယ်ကြီးလို ထွန်းထွန်းပပနဲ့ ကျက် သရေ ရှိလိုက်တာ။ ဒီစည်းစိမ်တွေကို ဘယ်လိုလုပ်ရတာလဲ"လို့ မေးတော့...

"တပည့်တော်ရဲ့ စည်းစိမ်ဆိုတာ အခြားကြောင့် မဟုတ် ပါဘူး၊ ဝိသာခါ ကျောင်းအစ်မကြီး ပုဗ္ဗာရုံကျောင်းတော်ကြီး ဆောက်လုပ်တဲ့အခါ အရပ်မျက်နှာ၁၀ နားနေခိုဝင်စရာ ဇရပ်များ ဆောက်လုပ်တဲ့ အခါတုန်းက အလှူရှင်နီးနီး ဝမ်းသာစွာ သာဓု ခေါ်ခဲ့ပါတယ်။ အဲဒီသာဓုခေါ်တဲ့ ကုသိုလ်ကြောင့် အခုလို

ဟာဝတီသာနတ်ပြည်မှာ သူမတူတဲ့ နတ်စည်းစိမ်တွေကို ခံစားရတာပါဘုရား။

"တပည့်တော်ဟာ အခြားနတ်တွေနဲ့ မတူပါဘူး၊ တပည့်တော် ဗိမာန်က အကျယ်အားဖြင့် ၁၆-ယူဇနာ ကျယ်ပါတယ်၊ စိုက်ဆောက်ထားတဲ့ ဗိမာန်မျိုးလဲ မဟုတ်ပါ၊ နေလတို့လို တပည့်တော်သွားလိုရာကို ဗိမာန်နဲ့တကွ သွားနိုင်ပါ တယ် ဘုရား၊ ဒါကြောင့်မို့ သာစုခေါ်တဲ့ ကုသိုလ်ကို အနည်းငယ် ပဲလို့ မခေါ်ချင့် ခေါ်ချင်နဲ့ ခေါ်တာမျိုး မဖြစ်စေသင့်ပါ။ နှစ်နှစ် သက်သက် ယုံကြည်ပြီး ခေါ်သင့်ပါတယ် ဘုရားလို့ လျှောက် ထားသတဲ့"

"ဒါနဲ့ အရှင်မြတ်က နေပါဦး နတ်သားရယ်၊ သာစုခေါ်ရုံလေးနဲ့ သင်တောင် အခုလောက် နတ်စည်းစိမ်ကို ခံစားနေရသေးရင် ဟို... ကုသိုလ်ရှင် ကျောင်းအစ်မကြီး ဝိသာခါကကော လို့ မေးပြန်တယ်။

"ဒီတော့ နတ်သားက အရှင်အနုရုဒ္ဓါ၊ အခု ပုဗ္ဗာရုံ ကျောင်းအစ်မကြီး ဝိသာခါဟာ နိမ္မာနရတိ နတ်ဘုံမှာ သုနိမ္မိတ နတ်မင်းကြီးရဲ့ နတ်မိဖုရားကြီး ဖြစ်နေပါတယ်၊ ဒုက္ခသစ္စာ၊ သမုဒယသစ္စာ၊ နိရောဓသစ္စာ၊ မဂ္ဂသစ္စာဆိုတဲ့ သစ္စာလေးပါးမြတ်

တရားကို ထင်ရှားသိမြင်တဲ့ သောတာပန် နတ်မိဖုရားကြီးပါ၊ တပည့်တော်တို့ စည်းစိမ်တွေထက် မနှိုင်းယှဉ်လောက်အောင် သာလွန်တဲ့ နတ်စည်းစိမ်တွေကို ခံစားနေရပါတယ် ဘုရား''

''အဲလို နတ်သားက လျှောက်ထားတော့ အရှင်အနုရုဒ္ဓါက သာဓုခေါ်လိုက်ပြီး လူ့ပြည်ပြန်ရောက်တော့ သူတွေ့ခဲ့ရတဲ့ ဒီနတ်သားတွေကိုပဲ အခြေခံထားပြီး ပြန်ဟောသတဲ့''

''ဒါကြောင့်မို့ ဒကာတင်ဝင်းတို့၊ ဒကာသိန်းအောင်တို့၊ ဒကာမောင်သန့်ဇင်တို့၊ မောင်ပေါက်ကျော်တို့လဲ ကိုယ့်မှာပိုက်ဆံငွေကြေး မတတ်နိုင်လို့ မလှူရ မတန်းရပေမယ့် အားမငယ်နဲ့၊ သူများလှူပြီး ကုသိုလ်အမှုဝေတဲ့အခါ နှစ်နှစ်ကာကာ ယုံယုံကြည်ကြည် သာဓုခေါ်တဲ့ အလေ့အကျင့်ကိုလဲ လေ့ကျင့်ပြီး သာဓုခေါ်တတ်ရမယ်နော်''

''သာဓု... သာဓု... သာဓုပါ အရှင်မြတ်ဘုရား''

''အေး... အေး နောက်တစ်ခါ ဥပုသ်နေ့ကျ ဆုံကြသေးတာပေါ့''

* * *

# ဥပုသ်သည် ဖတ်စရာ

## (၂)

ရွာဦးကျောင်းဆရာတော်သည် ညနေ ၆-နာရီလောက်တွင် ဘုရား ဝတ်တက်ပြီးနောက် ကျောင်းသား၊ ကိုရင်လေးများအား ဆုံးမကာ စာပြန်၊ စာအံခိုင်းလိုက်သည်။

မိမိကမူ ပက်လက်ကုလားထိုင် တစ်လုံးပေါ်၌ ထိုင်ကာ ပုတီးစိပ် ဘုရားအာရုံပြုနေသည်။

ဒီနေ့က ဥပုသ်နေ့ ညတစ်ညမို့ ဥပုသ်နေ့တိုင်း ကျောင်းမှာလာအိပ်လေ့ရှိသော ကျောင်း၏ ဂေါပကအဖွဲ့မှ ဒကာတင်ဝင်းတို့၊ ဒကာအုန်းမြတို့ စတဲ့ လူကြီးတစ်စုတို့ မရောက်လာသေးခင် ပုတီးစိပ်နေခြင်း ဖြစ်သည်။

နောက်မကြာခင် ၁၀-မိနစ်၊ ၁၅ မိနစ်လောက်အကြာမှာ ဒကာတင်ဝင်းတို့လူစု တစ်ယောက်စ၊ နှစ်ယောက်စနှင့် ရောက်လာကြသည်။ သူတို့သည် ကျောင်းပေါ်ရောက်ရင်ပဲ အရင်ဆုံး ဘုရားကို ဦးချပြီးမှ ရွာဦးကျောင်း ဆရာတော်နား လာထိုင်ကြသည်။

"ဟော့... တင်ဝင်းရဲ့၊ ဟိုဒကာတွေကော၊ ပေါက်ကျော်တို့၊ သိန်းအောင်တို့လေ"

"သူတို့လဲ လာလိမ့်မယ်ဘုရား၊ တပည့်တော်တို့လာတော့ ပေါက်ကျော် နွားစာမြက်ထည့်နေတာ တွေ့ရတယ်ဘုရား"

"အေး... အေး ပေါက်ကျော်ခမျာလဲ ကိုယ်ခွဲကမှ မရှိပဲကိုး၊ လုပ်ရမှာပေါ့လေ"

ထိုအခိုက် ပေါက်ကျော်နှင့် ကိုသန့်ဇင်တို့ ကျောင်းပေါ်တက်လာကြသည်။

သူတို့လည်း ဘုရားဝတ်ပြုပြီးမှ ရွာဦးကျောင်းဆရာတော်အနား လာထိုင်ကြသည်။

"ဘယ်လိုတုန်း မောင်ပေါက်ကျော်၊ နောက်ကျနေလား"

"မှန်ပါ၊ နွားစာထည့်နေရလို့ဘုရား၊ တပည့်တော် နွားစာ ထည့်တာ ဥပုသ်သီလ ကျိုးသွားလား ဘုရား"

"ဟဲ့… ဘယ်ကျိုးမှာလဲ၊ ဥပုသ်အင်္ဂါ ရှစ်ပါးထဲပါတာမှ မဟုတ်တာ။

"ဒါလဲ မေတ္တာအရင်းခံပဲပေါ့ ပေါက်ကျော်"

"မှန်ပါ အမိန့်ရှိပါ ဘုရား"

"မင်း… မင်းနွားနှစ်ကောင်အတွက် နွားစာမထည့်ခဲ့ရင် ညဘက် သန်းခေါင်သန်းလွဲ မင်းနွားတွေ အစာစားချင်ရင် ဘယ်လိုလုပ်မလဲ၊ ဒီတော့ ဒီတိရစ္ဆာန်တွေ ညဘက်ဆာရင် အရန်သင့်စားပါစေသဘောနဲ့ မင်း နွားစာထည့်ခဲ့တာ မဟုတ်လား"

"မှန်ပါ ဘုရား၊ တပည့်တော်လဲ ဒီသဘောပါ၊ တပည့်တော်က ဒီမှာလာအိပ်တော့ ညဘက် အစာထ ထည့်ပေးမယ့်လူကမှ မရှိတာ၊ ဆာလာရင် သူတို့က ကြိုးရုန်းတာဘုရား၊ ဒါမို့ တပည့်တော်က အစာထည့်ခဲ့တာ"

"အေး ဟုတ်တယ်၊ နို့… မင့်ဥပုသ်က သန့်သန့်လေးပဲ မဟုတ်လား"

"သန့်ပါတယ် ဘုရား၊ တစ်ချက်ကလေးမှ မညှိုးစေရပါဘူး၊ အပြောအဆို၊ အကြည့်အရှု စတာတွေကို အကုသိုလ်မဖြစ်ရအောင် သတိနဲ့နေပါတယ် ဘုရား"

"ကဲ ကိုပေါက်ကျော် ဥပုသ်နဲ့စပ်ပြီး ပြောရဦးမယ်၊ ဥပုသ်ဆိုတာ ဘုန်းကြီးတွေဆီမှာပဲ ခံယူကောင်းတယ်လို့ ထင်နေကြတာ"

"မှန်ပါ့ ဘုရား"

"အဲဒီလို မဟုတ်ဘူးကွ၊ ဒီတော့ ပေါက်ကျော်က လျှာရှည်တတ်လို့ အဋ္ဌကထာပါဠိကို ရွတ်ပြီးပြောမယ်။

**ဥပေါသထ ဒိဝသေ**-ဥပုသ်နေ့၌တဲ့၊ **ပါတောဝ**-မနက်စောစောကပဲ၊ **ဘိက္ခုသဿဝါ**- ရဟန်းယောကျ်ားထံမှာပဲဖြစ်ဖြစ်၊ **ဒသသီလက္ခဏညုနော**-၁၀ပါးသီလ လက္ခဏာကို သိကြားလိမ္မာတဲ့၊ **ဥပါသကာဿဝါ**-ဥပါသကာယောကျ်ားအထံမှာပဲဖြစ်ဖြစ်၊ **ဥပါသိကာယဝါ**-ဥပါသိကာမထံမှာပဲဖြစ်ဖြစ်၊ **သန္တိတော**-အခု ပြောပြီးတဲ့ ပုဂ္ဂိုလ်တစ်ဦးဦး အထံမှာပဲဖြစ်ဖြစ်၊ **ဝါစံဘိန္ဒိတွာ**-နှုတ်မြွက်ကြားကာ ပါးစပ်နဲ့ဆိုဆို၊ **ဥပေါသထင်္ဂါနိ**-ဥပုသ်အင်္ဂါ တို့ကို၊ **သမာဒါတဗ္ဗာနိ**-ဆောက်တည်အပ်ကုန်၏တဲ့။

"ရှင်းတယ်နော်"

"ရှင်းပါတယ် ဘုရား၊ ဥပုသ်ကို အဲ ရဟန်းထံမှာပဲဖြစ်ဖြစ်၊ ၁၀-ပါးသီလ နားလည်တဲ့ ဥပါသကာယောကျ်ားထံမှာပဲ

ဖြစ်ဖြစ်၊ ဥပါသိကာမထံမှာပဲဖြစ်ဖြစ် ဥပုသ်အင်္ဂါတို့ကို ဆောက်တည်နိုင်တယ်လို့ ပြောတာ''

''ဟုတ်ပါရဲ့ ဒကာတင်ဝင်းရဲ့''

''အရှင်ဘုရား ကိုရင်ဆီမှာကော မရဘူးလား''

''ဒါက ရဟန်းမရှိရင်လဲ ကိုရင်ဆီမှာပဲပေါ့ သူပြတာကိုက အမြွတ်အစဉ်ပြတာ၊ (၁) ရဟန်းတဲ့၊ (၂) ရဟန်းမတဲ့၊ (၃) ဥပါသကာ၊ (၄)ဥပါသိကာမတဲ့။ ဘုရား ပြောတာနော်။ ဒါကြောင့်မို့ အခု မင်းတို့တစ်တွေ ရဟန်းသံဃာရှိနေတော့ ရဟန်းသံဃာအထံမှာပဲ ဥပုသ်စောက်တည်နေတာပေါ့။ ဒါက တိကင်္ဂုတ္တရ အဋ္ဌကထာစကားကွ။ ဒါကတော့ အကောင်းဆုံးပေါ့ကွာ။ ဆိုပါတော့ကွာ တို့နေရတာက တဲတို့ ဘာတို့မှာ၊ ဥပုသ်နေ့မှန်းလည်း သိတယ်၊ ဒါပေမယ့်လည်း မသွားနိုင်ဘူးဆိုရင် ကိုယ်ကလည်း ဥပုသ်စောင့်ချင်သပဆိုရင် ဒါဘယ်လိုလုပ်မလဲ။ ဥပုသ်မစောင့်ရတော့ဘူးတဲ့လား၊ အဲဒါ အခုလို သိထားရင် ပြီးတာပေါ့။

''ကဲ ရွှေပေါက်ကျော်၊ အခုပြောခဲ့တဲ့ ပုဂ္ဂိုလ်တွေမရှိရင်ကော ဥပုသ်မစောင့်ရတော့ဘူးတဲ့လားတဲ့''

"ဆောက်တည်လို့ ရပါတယ်၊ နားထောင်ကြည့်-အညံ့အလဘန္တေန-အခုပြောတဲ့သူတွေမရရင်၊ အတ္တနာပိ-မိမိကိုယ်တိုင်လည်း၊အဓိဋ္ဌာတပ္ပံ- ဥပုသ်စောင့်ကောင်းပါသတဲ့ဗျား"

"မှန်ပါ့... ကိုယ့်ဘာသာကိုယ်လည်း ဆောက်တည်ရင် ဥပုသ်ရတယ်လို့ သိရပါတယ်"

"ဟုတ်ပါ့... ကိုပေါက်ကျော်၊ နို့ပေမယ့် ငုတ်တုတ်ထိုင်ပြီး စိတ်လေးနဲ့တော့ မရဘူး၊ စာကဆိုတာက (ဝစီဘေဒေါပနကာတဗ္ဗောယေဝ) နှုတ်မြွက်ဆိုပြီး ဆောက်တည်ပါတဲ့"

"အသံထွက်ပေါ့ဘုရား၊ အသံတိတ်တော့ မရဘူးပေါ့"

"မင်းတော်တော့်ကိုရှည်တယ်"

"ဒါလဲ သေချာအောင်ပေါ့ ဖိုးတင်ဝင်းရာ"

"ဒီတော့ ဆောက်တည်ရမယ့် ပုဂ္ဂိုလ်တော့သိပြီ၊ ဘယ်လိုဆောက်တည်ရမလဲ"

"**အဟံ**-တပည့်တော်ဟာ၊ **ဥပေါသထင်္ဂဝသေန**-ဥပုသ်အင်္ဂါတို့၏ အစွမ်းဖြင့်၊ **အဋ္ဌသိက္ခာပဒါန**-ရှစ်ပါးကုန်သော သိက္ခာပုဒ်တို့ကို၊ **သမာဒိယာမိ**-ဆောက်တည်ပါ၏။

"**ပါတာဏာိပါတာ-** သူ့အသက် သတ်ခြင်းမှ၊ **ဝေရမဏီ သိက္ခာပဒံ-** ရှောင်ကြဉ်ကြောင်း သိက္ခာပုဒ်ကို၊ **သမာဒိယာမိ-** ဆောက်တည်ပါ၏။ **အဒိန္နာဒါနာ-**သူ့ဥစ္စာကို ခိုးယူခြင်းမှ စသဖြင့် သွားရောပေါ့ကွာ"

(ဥပေါသထင်္ဂဝသေန အဋ္ဌ သိက္ခာပဒံ သမာဒိယာမိ၊ ပါဏာတိပါတာ၊ ဝေရမဏီသိက္ခာပဒံ သမာဒိယာမိ၊ အဒိန္နာဒါနာ ဝေရမဏီ သိက္ခာပဒံ သမာဒိယာမိ၊ အဗြဟ္မာစရိယာ ဝေရမဏီ သိက္ခာပဒံ... ဒုတိယမ္ပိ၊ တတိယမ္ပိနဲ့ပေါ့ကွာ)

"ဒါ... အနက်မဆိုဘဲ ပါဠိချည်းဆိုလဲရတယ်၊ ဒါမှ မဟုတ် ကိုယ်ဘာသာစကားနဲ့ ကိုယ်ဆိုလဲ ရတယ်နော်"

"မှန်ပါ"

ပါဠိ။ **အဓာနင္ကေန ပန အတ္တနော ဘာသာယ ပစ္စက္ခာ်ဝါ၊ ဗုဒ္ဓပညတ္တံ ဥပေါသထံ အဓိဋ္ဌာမီတိ ဧကော အဓိဋ္ဌာနဝသေနဝါ သမာဒါတဗ္ဗာနိ။** (တိကင်္ဂုတ္တရဋ္ဌကထာ)

ပါဠိ။ **အဓာနင္ကေနပန ဗုဒ္ဓပညတ္တံ ဥပေါသထံ အဓိဋ္ဌာမီတိ အဓိဋ္ဌာတဗ္ဗံ။** (တိကင်္ဂုတ္တရအဋ္ဌကထာ)

(ဘုရားရှင် ပညတ် ဟောကြားတော်မူအပ်သော ဥပုသ် ကို ဆောက်တည်ပါ၏။)

"ဒီတော့ ဥပုသ်စောင့်တဲ့သူဟာ အကြိုနေ့က-အဖိတ်နေ့ကပေါ့ ခဲဖွယ်ဘောဇဉ် စတဲ့ အာဟာရကိစ္စများနှင့် ရေချိုးခြင်း၊ ခေါင်းလျှော်ခြင်း စတဲ့ ကိစ္စကြီးငယ်တွေကို စေခိုင်းခြင်း၊ မှာကြားခြင်းဖြင့်သော်လည်းကောင်း၊ ကိုယ့်ဘာသာကိုယ်သော်လည်းကောင်း အပြီးအစီး စီမံရမယ်တဲ့။

"ဥပုသ်နေ့ကျတော့ မနက်စောစောကပင်ထ၍ အခုနအတိုင်း ဆောက်တည်ရမယ်တဲ့၊ အဋ္ဌကထာကဆိုတာ။

"ဒီတော့ ဥပုသ်ခံယူပြီးတာနဲ့ ဘယ်လို ဘာဟီယ ကိစ္စကြီးငယ်ကိုမှ မပြုလုပ်တော့ဘဲ တရားနာခြင်း၊ ဘာဝနာများပွားများခြင်း စတာနဲ့ပဲ ဥပုသ်နေ့ကို ကုန်စေရမှာတဲ့။

"ဒါက ဥပုသ်အကြိုနေ့ကပဲ အစားအသောက်ကိစ္စကိုပြီးရမှာ။ ဆောက်တည်ရမယ့်နေ့ကျမှ အစားအသောက်တွေ စီမံနေရင် တရားနှလုံးသွင်းတဲ့အချိန်တွေ နည်းသွားမှာပေါ့။ (တိကနိပါတ် အင်္ဂုတ္တိုရ်ပါဠိ)

"ဟောတာက ဂေါပါလကုပေါသထ-တဲ့ နွားကျောင်းသား ဥပုသ်မျိုးလေ။

"နွားကျောင်းသားတွေဆိုတာ နွားတွေကို ဒီနေ့တော့ ဘယ်စားကျက်မှာ ကျောင်းမှာ၊ နောက်နေ့ကျရင် ဘယ်စားကျက်

ကို ပြောင်းမယ်နဲ့ အစားအသောက်ရှိတဲ့ နေရာတွေကိုသာ ကြံစည် နေတာကိုး။

"ဥပုသ်သည်ကလည်း အစားအသောက်ကိုပဲ ကြံစည်ပြီးနေရင် ဒါနွားကျောင်းသားဥပုသ်ပဲ။

"ဒါကြောင့်မို့ ကိုယ့် ကိုယ်,နှုတ်,စိတ်တွေကို စင်ကြယ်နေရမှာ သူများကို နှိပ်စက်ညှဉ်းပန်းတာတို့၊ ဆဲရေးတိုင်းထွာတာတို့၊ ဟိုစကား ဒီစကား အကျိုးမရှိဘဲပြောတာတို့ ဆိုတာတွေကို ရှောင်ကြဉ်နေရမှာ"

"အဲဗျာ အဌကထာဆရာတွေက-

"**ဂေဟေပန အာဟာရံ လဘိတ္ဝာ နိန္နဘတ္တိက ဘိက္ခူနာဝိယ**"တဲ့။

တို့အိမ်မှာ အမြဲလာပြီး ဆွမ်းဘုဉ်းပေးတဲ့ ရဟန်းလို့တဲ့။

"ပရိဘုဥ္စိတာ ဝိဟာရံ ဂန္ဒွာ ဓမ္မောဝါ်သောတဗ္ဗော-တဲ့၊ စသဖြင့်ပြောထားတာ၊ အခုန ရဟန်းလို တည်တည်ငြိမ်ငြိမ်နဲ့ ထမင်းဘာစားသောက်ပြီး ကျောင်းကန်ဘုရားသွားပြီး တရားနာပါ၊ ကမ္မဋ္ဌာန်း ဘာဝနာ စီးဖြန်းပါတဲ့"

"ဗုဒ္ဓရှိတုန်းကပေါ့ အနာထပိဏ်သား ကာလကို သူ့အဖေက ကျောင်းမှာ ဥပုသ်စောင့်ခိုင်းတယ်၊ ဥပုသ်တစ်ခါစောင့်ရင် ငွေတစ်ရာ ပေးမယ်လို့ပြောတာ၊ ဒီတော့ ကာလကလဲ ဥပုသ်စောင့်ရမှာက ခပ်ပျင်းပျင်းကိုး၊ ငွေတစ်ရာရတယ်ဆိုတော့ စောင့်တာပေါ့"

"နို့ပေမယ့် ကိုယ်တော်က ဥပုသ်ဆောက်တည်ပြီး တရားမနာဘူး၊ တစ်နေရာမှာအိပ်ပြီး မိုးလင်းတော့အိမ်ပြန်၊ သူ့ဖခင်ဆီက ငွေတစ်ရာတောင်းပေါ့၊ အဲဒါ သုံးခါစလုံး အဲဒီလိုပဲတဲ့။ ညအိပ်အိပ်ပြီး တရားမနာဘဲ တောင်းတာ။

"ဒီတော့ အနာထပိဏ်က "ဟေ့... တရားတစ်ပုဒ်သာ မှတ်မိလာခဲ့၊ တစ်ပုဒ်မှတ်မိတိုင်း တစ်ထောင်ပေးမယ်" လို့ ဆိုပြန်တယ်။ ကာလ ဒီတော့ တရားနာပြီ။ တစ်ထောင်ရမှာကိုး။ အဲဒါ တရားလည်းနာရော တရားထူးလည်းရရောတဲ့၊ အဲဒါ မနက်စောစော အိမ်ပြန်ရောက်တော့ ငွေတောင်မယူတော့ဘူးတဲ့၊ တရားအရသာ သိသွားပြီကိုး။

"အခု ကာလက ကျောင်းမှာ ညအိပ်ပြီး ဥပုသ်စောင့်တာကိုထောက်ရင် ဘုရားလက်ထက်က ဥပုသ်သည်ဟာ ကျောင်းမှာ အိပ်မယ်လို့ ယူဆနိုင်တယ်နော်"

"မှန်ပါ့ တပည့်တော်တို့လိုပေါ့"

"အံမယ် ကိုပေါက်ကျော်တို့က သွက်လိုက်တာ၊ နို့ပေမယ့် မင်းလိုတော့ နွားစာတွေ ဘာတွေ ကျွေးတာမဟုတ်ဘူး"

"ဒါပဲဟာ အိမ်ပြန်ရင် ဗာဟီရကိစ္စက နှောင့်ယှက်ရော၊ ဒါကြောင့်မို့ မပြန်ကြတာပဲ ဖြစ်ရမယ်"

"စာက ဆိုတာဟာ **ဥပေါသထသောဓနေ့တွင်ရွေဝ**-ဥပုသ်၏ သန့်ရှင်းစင်ကြယ်စေခြင်း အကျိုးငှာလည်းကောင်း၊ **ယောနိသောမနသိကာရ ပရိဗြူဟနတ္ထာ**- တရားနှင့် နှလုံးသွင်းခြင်းကို ပွားတိုးစေခြင်း အကျိုးငှာလည်းကောင်း၊ **နာဂရံ**-မြို့တွင်းသို့၊ **အဂန္တွာ**-မပြန်ကုန်ဘဲ၊ **ဝိဟာရေယေဝ**-ဇေတဝန်ကျောင်းတိုက်၌ ပင်လျှင်၊ **ဝသိတုကာမာ**-ညအိပ်နေလိုကြသည်ဖြစ်၍၊ **သြဟီယိံသု**-ကျန်ရစ်ခဲ့ကြလေကုန်ပြီ။

"ဒါဘုရားလက်ထက်က ဥပုသ်သည်တွေလေ၊ ဇေတဝန်မှာပဲ ညအိပ်သတဲ့၊ ဥပုသ် သန့်ရှင်းအောင်တဲ့၊ တရားနှလုံးသွင်းရအောင်တဲ့။

"ဟော ကိုပေါက်ကျော်က အိမ်ပြန်တော့ နွားစာထည့်ရသေး၊ အေးလေ မစောင့်တဲ့လူထက်တော့ သာသေးတာပေါ့"

"မှန်ပါ၊ အများကြီးသာပါတယ်"

"ပေါက်ကျော် မင်း စဉ်းစားကြည့်၊ ရှေးကလူတွေလဲ ဥပုသ်စောင့်ပြီးရင် အိမ်ပြန်တာ မဟုတ်ဘူး၊ ဥပုသ်ဇရပ်တွေမှာ အိပ်ကြတာ၊ ဒါကြောင့် ဥပုသ်ဇရပ်ဆိုတာ ရှိတာနေမှာနော်"

"မှန်ပါ့"

"အေးလေ... ဘုရားသံသာနာနဲ့ ကြုံတုန်း တို့မှာပါရမီတွေ ဖြည့်ကြရတာ၊ သံသရာဆိုတာ လည်ပတ်ခဲ့ရတာ ကြာလှပြီနော် ပေါက်ကျော်"

"ဒါနဲ့ အရှင်ဘုရား သံသရာဆိုတာ ဘာလဲ ဘုရား"

"ဟ... သံသရာဆိုတာ ရုပ်နာမ်တွေ ထပ်ခါထပ်ခါ ဖြစ်နေရတာကို သံသရာခေါ်တာပေါ့၊ ဥပမာကွာ ဒီဘဝကသေ နွားဖြစ်ရင် နွားရုပ်နာမ်ပေါ့၊ ဟော... လူဖြစ်တော့ လူရုပ်နာမ် ပြန်ဖြစ်ပြန်ရော၊ တစ်ခါ နတ်သွားဖြစ်တော့လဲ နတ်ရုပ်နာမ် ဖြစ် ပြန်ရော။ အဲလို ၃၁-ဘုံမှာ လည်ပတ်ပြီး ရုပ်နာမ်တွေ ထပ်ခါ ထပ်ခါ ဖြစ်တာကို သံသရာခေါ်တာပေါ့။ ရုပ်နာမ်တွေ လည်နေ တယ်လို့ ပြောတာပေါ့။

"ဒါကြောင့်မို့ ဒီရုပ်နာမ်တွေ ဖြစ်ရတာကို ငြီးငွေ့စက်ဆုပ်ပြီး ရုပ်နာမ်ဖြစ်မှုတွေ မရှိတဲ့ နိဗ္ဗာန်ရောက်အောင် ဥပုသ်စောင့်တာတို့ ဘာတို့ လုပ်နေကြရတာ"

"မှန်ပါ၊ တပည့်တော်လဲ ဒီသဘောပဲ ဘုရား"

"အောင်မာ ပေါက်ကျော်က ဆရာ့တော့်စကားနဲ့ ရောချလိုက်တာ"

"အဟုတ်ပါ၊ မောင်တင်ဝင်းရာ၊ ငါ့မှာ ငြီးငွေ့လှပါပြီ"

"မင်းက ဘာငြီးငွေ့တာလဲ၊ လယ်လုပ်ရတာကိုလား"

'မဟုတ်ဘူးကွ၊ ကြွေးထူလို့"

"ဟဲ့... ပေါက်ကျော် ဖောက်လာတာလား"

"အလကား စတာပါ၊ တင်ဝင်းကို ဘုရား"

"နို့... မင်းက ဘာလို့ ဥပုသ်စောင့်တာလဲ"

"ကုသိုလ်ရအောင် ဘုရား"

## ဝိသာခါရဲ့ ဥပုသ်သည်စခန်း

"ဒါတော့ နင်ပြောမှလား၊ ကုသိုလ်လိုချင်လို့ ဥပုသ်စောင့်ကြရတာပေါ့၊ ဒါပေမယ့် ဟို... ဘုရားလက်ထက်က ဥပုသ်သည်ဒကာမတွေလိုလဲ ဖြစ်နေဦးမယ်"

"သူတို့က ဘယ်လိုမို့လဲ ဘုရား"

"အေး ဥပုသ်နေ့တစ်နေ့ ဆိုပါတော့၊ သာဝတ္ထိပြည်က မိန်းမတွေ ဝိသာခါရဲ့ ပုဗ္ဗာရုံကျောင်းမှာ ဥပုသ်သွားစောင့်ကြသတဲ့၊ ငါးရာလောက်တောင် ရှိသတဲ့။ ဒီအခါ ဝိသာခါကျောင်းအစ်မကြီးက ဒီဥပုသ်သည့်မတွေထဲက အသက်ခပ်ကြီးကြီး မိန်းမတွေကို မေးကြည့်သတဲ့"

"အမေတို့ ဘာဖြစ်လို့ ဥပုသ်စောင့်ကြတာတုန်း"

လို့ပေါ့။ ဒီတော့ "နတ်စည်းစိမ်ခံစားချင်လို့ပေါ့"လို့ ဖြေသတဲ့။

တစ်ခါ ဝိသာခါက အရွယ်အလတ်ဖြစ်တဲ့ မိန်းမတွေကိုမေးတော့ လင်တူမိန်းမတွေနဲ့ အတူနေရခြင်းက လွတ်အောင်တဲ့။

"ဟုတ်မယ် ကိုယ်တော်၊ သူတို့လင်တွေက မယားများကြတာကိုး၊ ဒီတော့ တစ်ရက်လေးလောက် ဝေးဝေးနေရလဲ စိတ်ညစ်၊ ရန်ဖြစ်ရတာ နည်းနည်းသက်သာတာပေါ့"

"အံမာ ဒါတော့ ပေါက်ကျော်က မြင်သားပဲ၊ ကဲ... ထားပါ။

"တစ်ခါ အသက်ငယ်တဲ့ မိန်းမတွေကိုမေးကြည့်တော့ ပထမ ကိုယ်ဝန်မှာ သားယောကျ်ားလေးရအောင်တဲ့၊ နောက်ဆုံး အပျိုစင် မိန်းမတွေကိုမေးတော့ ပျိုရွယ်စဉ်မှာပဲ လင့်အိမ်ကိုလိုက် ချင်လို့ ဥပုသ်စောင့်တာတဲ့။

"အဲဒါ ဝိသာခါက အဲဒီစကားတွေမှတ်ပြီး ဘုရားရှင်ကို လျှောက်ပြတယ်။ ဗုဒ္ဓက ဝိသာခါရေ သူတို့ ဥပုသ်စောင့်တာက လဲ ဟို... နွားနှင်တံကိုင်ပြီး နွားကျောင်းသားတွေက နွားတွေကို နွားစားကျက်မောင်းနေသလိုပဲ။

"သတ္တဝါတွေကိုကြည်ဝိသာခါ၊ ပဋိသန္ဓေနေပြီးနောက် အိုခြင်း၊ နာခြင်းတွေက သတ္တဝါတွေရဲ့ အသက်ကို သေခြင်းဆီ မောင်းနှာတာတောင်မှ ဝဋ်ဆင်းရဲ ကလွတ်ရာဖြစ်တဲ့ နိဗ္ဗာန်ကို မတောင့်တချင်ကြဘူး၊ ဝဋ်ဆင်းရဲကိုပဲ တောင့်တနေကြတာတဲ့။

"ကဲ... ဘယ့်နှယ် မောင်ပေါက်ကျော်၊ မင်းရော၊ ငါရောပေါ့၊ နေ့စဉ် အိုနေတာ၊ နာနေတာ၊ မကြာခင် သေခြင်းဆီ ရောက်ရမှာ တွေးကြည့်ရင် ကြောက်စရာကြီးရယ်၊ သံသရာထဲ ပြန်လည်ရဦး မှာနော်၊ မင်းရုပ်နာမ်တွေ ခဏခဏ တစ်ဘဝပြီး တစ်ဝဖြစ်နေတာ စိတ်မပျက်သေးဘူးလား"

"အရှင်ဘုရားနှယ် စိတ်ပျက်လှပေါ့ ဘုရား၊ ဒါနဲ့ အရှင်ဘုရား မနက်က ဓမ္မစကြာဟောတော့ ဇာတိပိဒုက္ခာတဲ့၊ ပဋိသန္ဓေနေရတာလဲ ဆင်းရဲဆို မဟုတ်လား"

"အေးလေ၊ ပဋိသန္ဓေနေရတာကိုက ဆင်းရဲတာ"

"မှန်ပါ၊ တပည့်တော်ကလဲ အဲဒါကို စဉ်းစားနေတာ၊ ဆိုပါတော့ ဘုရား... အိုတာ ဆင်းရဲတာတို့၊ နာတာ ဆင်းရဲတာတို့၊ သေတာ ဆင်းရဲတာတို့က တပည့်တော်တို့မျက်မြင်မို့၊ နောက်ပြီး ကိုယ်တိုင်လဲခံစားရတာမို့ ဆင်းရဲမှန်းသိပါတယ်၊ အဲ... ပဋိသန္ဓေနေတာကျတော့ ဘယ်လိုဆင်းရဲတယ်ဆိုတာ မသိဘူးဘုရား၊ ဗိုက်ထဲမှာဆိုတော့ မြင်လဲမမြင်ရဘူးဘုရား"

"ဟဲ့... ဒါက ပကတိမျက်စိနဲ့ကြည့်လို့ ဘယ်သိမလဲ၊ ဉာဏ်မျက်စိနဲ့ မြင်အောင်ကြည့်ရတာကွ"

"အဲ... ဆိုပါတော့၊ ဘုရားအလောင်းများကျတော့ သူ့ပဋိသန္ဓေအကြောင်း သူ့ဘာသာသိတာခင်ဗျ၊ ငါတော့ ဒီတုသိတာနတ်ဘုံကနေ မိခင်ဝမ်းမှာ ဘယ်နေ့ ဘယ်အချိန်မှာ ပဋိသန္ဓေနေမယ်၊ ဘယ်တော့ဖြင့် ဖွားမြင်မယ်နဲ့ကို သိနေတာ၊ ဒါ့အပြင် မိခင်ဝမ်းဗိုက်ထဲမှာလဲ ဘယ်အထိ ဆင်းဆင်းရဲရဲနဲ့ နေရတယ်ဆိုတာလဲ သိတာပဲတဲ့။

“ဟုတ်မယ် ပေါက်ကျော်၊ ဒါကြောင့်မို့လဲ ဗုဒ္ဓဖြစ်တော့ ပဋ္ဌိသန္ဓေနေရတာ ဘယ်လိုဆင်းရဲတယ်ဆိုတာကို ဂဃနဏ ပြန်ဟောနိုင်တာ”

“ဟုတ်ပါ့ ကိုတင်ဝင်း”

“အဲ... ပေါက်ကျော်ရေ၊ တို့ ဟိုရဟန္တာပုဂ္ဂိုလ်များကျတော့၊ တချို့ ပုဂ္ဂိုလ်များကျတော့ သိသတဲ့၊ တချို့ပုဂ္ဂိုလ်များကျတော့လဲ မသိဘူးတဲ့”

“နို့... တပည့်တော်တို့ကျတော့ကော”

“အေး... တို့ကျတော့ မောဟတရားကြီးက ဖုံးလွှမ်းထားတာမို့ ဘာမှကိုမသိဘူးတဲ့”

“ဒီတော့ ကိုယ့်မှာရှိတဲ့ အသိဉာဏ်နဲ့ပဲ ပဋ္ဌိသန္ဓေဒုက္ခကို ချိန်ထိုးကြည့်ရမှာကိုး”

“မှန်ပါ့၊ တပည့်တော် စဉ်းစားမိတယ်ဘုရား၊ မိန်းမတွေ သားဖွားခါနီးဆိုရင် အရမ်းကိုဆင်းရဲတာ၊ အော်လိုက် ငိုလိုက်ပဲ။

“ဒီတော့ မိခင်တောင် ဒီလောက်ဆင်းရဲနေမှ ဟို... ဗိုက်ထဲက ကလေးဆို ဘယ်လောက် ဆင်းရဲလိမ့်မလဲလို့”

"အင်း... ဒီလို စဉ်းစားလဲ မဆိုးပါဘူး၊ နို့... စာထဲ ကတော့ ပဋိသန္ဓေဆင်းရဲကို အဆင့်ဆင့်ပြထားတာ"

"အဲဒါလေး အမိန့်ရှိပါဦးဘုရား"

"အဲ စာအဆိုက 'ပဌမံ ကလလံ ဟောတိ' တဲ့ အရင်ဆုံး ကလလရေကြည်လေးတည်သတဲ့၊ အဲဒီ ကလလရေကြည် အဆင့်မှာ ခုနစ်ရက်ကြာသတဲ့"

"ကလလရေကြည်ဆိုတာက အခြားမဟုတ်ဘူးကွ၊ တို့ ပဋိသန္ဓေ ဝိညာဉ်စိတ်တစ်ခုရယ်၊ ကာယ၊ ဘာဝ ဝတ္ထုဆိုတဲ့ ရုပ်သုံးမျိုးရယ် ပေါင်းဖြစ်တာကိုပြောတာ"

"ပေါက်ကျော်"

"ဘုရား"

"ရုပ်နာမ်စပြီနော်"

"မှန်ပါ"

"ပဋိသန္ဓေစိတ်က နာမ်၊ ကာယ၊ ဘာဝ၊ ဝတ္ထုတို့က ရုပ်၊ အဲဒီ ရုပ်နာမ်တို့ တစ်ပြိုင်နက်တည်း စဖြစ်တာကို ကလလ ရေကြည်ရယ်လို့ခေါ်တာ"

"ဒီ ကလလရေကြည်ကိုတောင် အမျိုးအစားလေးနဲ့ ဆို ထားတာ၊ အဲ... ဆိုပါတော့ နှမ်းဆီအကြည်ထက် ထောပတ်ချက် သစ်စဆီက ပိုပြီးကြည်တယ်၊ အဲဒီဆီကိုမှ အမျိုးကောင်းတဲ တောဆိတ်မွေးလေးတစ်ပင်နဲ့ တို့လိုက်တဲ့၊ တို့ပြီးရင် ခေါက်ထိုး ကိုင်ထားလိုက်၊ အဲဒီ တောဆိတ်မွေးရဲ့ အဖျားမှာ လာစုနေတဲ့ ဆီပေါက်လောက်ပဲရှိသတဲ့၊ ကလလရေကြည်က"

"ဒါဆို တကယ့်ကို နည်းနည်းလေးပဲနော်"

"အေး... နည်းနည်းလေးပေမယ့် အဲဒီ နည်းနည်းလေးမှာ ဝတ္ထုရုပ်ရယ်၊ ကာယရုပ်ရယ်၊ ဘာဝရုပ်ရယ်နဲ့ ကလာပ်စည်းက သုံးစည်း တစ်ပြိုင်တည်းတည်တာ၊ တို့ ပဋိသန္ဓေစိတ်ကလဲ အဲဒီမှာ ဟဒယဝတ္ထု ရုပ်မှာတည်လာတာ၊ တစ်ခါ ပထဝီဓာတ်၊ အာပေါဓာတ်၊ တေဇောဓာတ်၊ ဝါယောဓာတ်ဆိုတဲ့ ဓာတ်ကြီးလေးပါးလဲ ပါလာတာ၊ အဲဒီရုပ်တွေက စုပေါင်းထောက်ပံ့လိုက်တော့ ဟော... အခုန ကလလရေကြည်လေးဟာ ဒီခုနစ်ရက်အတွင်းမှာ ကြက်ဥ စတဲ့ ဥသိမ်လေးနဲ့တူလာသတဲ့။ အရည်တို့၊ အပျစ်အကျဲတို့လဲ အတူတူပဲတဲ့။ အဲလို ပုံသဏ္ဌာန်လေးဖြစ်ပြီးတော့ နောက်ထပ် ခုနစ်ရက်ကြာတော့ ဒါ ဒုတိယ ခုနစ်ရက်နော်"

"မှန်ပါ့ ဘုရား"

"အေး... ဒုတိယ ခုနစ်ရက်လဲကြာတော့ အဗ္ဗုဒခေါ်တဲ့ အမြှုပ်ဖြစ်လာတယ်၊ အမဲသားဆေးရည်နဲ့ အရောင်တူတယ်၊ ဒါ အခုန ကလလရေကြည်လေး ရင့်လာတာနော်။

"သူ့ပုံသဏ္ဌာန်က အမြှုပ်လေးတွေ စုဆောင်းပြီး စီစီ စီစီနဲ့ ခုနစ်ရက်လုံး ဖြစ်နေတာ"

"နောက် တတိယခုနစ်ရက်ကြာတော့ ပေသိတဲ့၊ ပေသိ ဆိုတာက အရည်ခပ်ပျစ်ပျစ်လေးအဆင့် ရောက်လာတာ၊ သူ့ အဆင်းက ကြည်လင်တဲ့ ခဲနုက်ရည်အဆင်းနဲ့ တူတယ်"

"အဲဒီကမှ စတုတ္ထ ခုနစ်ရက်ကျတော့ ဃနတဲ့၊ ဃန ဆိုတာက အခုန ပေသိအဆင့်ကနေဖြစ်လာတာ၊ ခပ်ပျော့ပျော့ လေး၊ အရွယ်အစားက ကြက်ဥငယ်လေးလောတဲ့။ တို့ မုန့်ကျွဲ သည်းလို နေမှာပေါ့၊ ခပ်ပျော့ပျော့"

"အဲ... အဲလို ဃနအဆင့်နဲ့ ခုနစ်ရက်ကြာပြီးတော့မှ နောက်ပဥ္စမခုနစ်ရက်ကျတော့ အခုန ဃနအပျော့စားမှ ခြေနှစ်ဖက်နေရာက အဖုလေးတစ်ဖုစီနဲ့ အဖုလေးနှစ်ဖု၊ လက်နှစ် ဖက်နေရာ က အဖုလေးတစ်ဖုစီနဲ့နှစ်ဖု၊ ခေါင်းနေရာက အဖုတစ် ဖုနဲ့ဆိုတော့ အားလုံး အဖုလေးငါးခု ပေါ်လာတယ်။ အဲဒါကို ခက်မငါးဖြာလို့ ခေါ်တာ"

"အဲလို ပဋိသန္ဓေတည်ရာမှ ၇၇ -၇က်အတွင်းမှာ စက္ခု-မျက်စိ၊ သောတ-နား၊ ဃာန-နှာခေါင်း၊ ဇိဝှါ-လျှာဆိုတဲ့ ကလာပ် အစည်းလဲ ဖြစ်လာတယ်"

"အဲဒီလိုနဲ့ သူငယ်ဟာ တစ်စတစ်စ ကြီးထွားလာပြီး သတ္တာဟပေါင်း (၇ ရက်ပေါင်း) ၃၀။ လနဲ့တွက်ရင် ခုနစ်လ အတွင်းမှာ ခြေတို့၊ လက်တို့၊ ဆံပင်တို့စတဲ့ မိခင်ဝမ်းတွင်းထဲမှာ တင် ဖြစ်သင့်သမျှ ကောဋ္ဌာသအစုတို့ ပြည့်စုံတော့ သတ္တာဟ (၇ ရက်) အနေနဲ့ ၄၂-သတ္တာဟ၊ လအားဖြင့် ကိုးလနဲ့ ၂၄-ရက်မှာ ဖွားမြင်လာရော"

"အရှင်ဘုရား၊ လူဖြစ်ဖို့ မလွယ်ပါလား"

"အေး... ဘယ်လွယ်မလဲ၊ ဒါတောင် အကြောင်းအမျိုးမျိုးကြောင့် သန္ဓေပျက်ချင်ရင် ပျက်သွားနိုင်တာ၊ အဲ... ဒါထားတော့"

"အဲလို ဝမ်းထဲမှာရှိနေတော့ ဒီသန္ဓေသားဟာ အသက်ရှင်ဖို့ ဘာစားသလဲဆိုတော့ ဒီသန္ဓေသားရဲ့ချက်ကြိုးဟာ အချင်းနဲ့ စပ်နေတော့ မိခင်ရဲ့ သားမြတ်နှစ်ခုအကြား၊ အစာသစ်အိမ်ရဲ့ အောက်ဘက် မျှော့တွယ်နေသလို ခပ်မြဲမြဲ တွယ်ကပ်နေသတဲ့။ အဲဒီချက်ကြိုးရဲ့ ထိပ်ဝကကြာရိုးမှာ အပေါက်အပေါက်ကလေး တွေ ရှိနေသလို ချက်ကြိုးထိပ်ဝကလဲ အပေါက်ကလေးတွေရှိ

သတဲ့၊ ဒီတော့ မိခင်စားသမျှသော သွေးနုဆိုတဲ့ ရသရည်ကို သစ်ပင်ရဲ့အမြစ်က ရေကိုစုပ်ယူပြီး သစ်ပင်ထဲဝင်စေသလို ချက်ကြိုးကနေလျှောက်ပြီး သူငယ်ရဲ့ဝမ်းတွင်းထဲ ဝင်စေသတဲ့။ အဲလို ဝင်တော့ အာဟာရဇ အဋ္ဌကလာပ်ရုပ်တွေဖြစ်ရော၊ အဲလိုမို့ သူငယ်ဟာ အစာကို အမြဲရနေတော့ တစ်နေ့တခြား ကြီးထွားလာရောပေါ့"

"ဒီတော့ မင်းတို့ပဲစဉ်းစားကြည့်၊ မိခင်ဝမ်းဆိုတာ ဘယ်လောက်တောင် ပုပ်နံနေမယ်ဆိုတာ၊ တို့ရင်ပြည့် ရင်ကယ်ရင်တောင် ခါတ်တို့ ဘာတို့ချုပ်နေရင်တောင် ပါးစပ်ကနေ အပုပ်နံ့က ထောင်းခနဲ၊ ထောင်းခနဲ ထွက်နေတာ"

"ဟိုမှာ ဝမ်းထဲမှာက ချွဲ၊ ပြည်၊ သလိပ်၊ နှပ်၊ တံတွေး၊ ကျင်ကြီး၊ ကျင်ငယ်၊ အစာသစ်၊ အစာဟောင်းတွေ စုပေါင်းနေတာကိုး။ တို့ ဟို... အလွန်ပုပ်နေတဲ့ မစင်တွင်းထဲ ကျသလို ဆယ်လတိုင်တိုင် အဲဒီ အပုပ်အိုးထဲ ဆင်းဆင်းရဲရဲကို နေရှာတာ"

"ကိုပေါက်ကျော်"

"အရှင်ဘုရား"

"အခုန သန္ဓေသား မိခင်ဝမ်းထဲနေရတာ အပုပ်အိုးကြီး ထဲ နေရတာများ ကျယ်ကျယ်ဝန်းဝန်းကြီး နေရရှာတာမဟုတ်ဘူး၊ ကျဉ်းကျဉ်းမြောင်းမြောင်းထဲ နေရတာဗျ၊ တစ်ခါ ဘာနဲ့တူသလဲ ဆိုတော့ မိုးတွေသိပ်ရွာတဲ့အခါ သစ်ပင်ခွကြားမှာ ငုတ်တုတ်လေး ထိုင်နေတဲ့ မျောက်စုတ်ကလေးလိုတဲ့၊ သန္ဓေသားဟာ ဆောင့် ကြောင့်လေးထိုင်၊ လက်လေးနှစ်ဖက်က မေးစေ့ကိုထောက်ပြီး မိခင်ရဲ့ဝမ်းဘက်ကိုကျောပြု၊ ကျောဘက်ကို မျက်နှာမူပြီး အစာ သစ်အိမ်ကို ခေါင်းနဲ့ရွက်၊ အစာဟောင်းအိမ်ကို ဖင်ခုထိုင်နေရတာ"

"အဲဗျာ... အခုန ကိုပေါက်ကျော်ကို ခေါင်းပေါ်မှာ ဝန်ထုပ်ကြီးတင်ပေးပြီး လေးငါးဆယ်ရက်လောက် နေခိုင်းရင် လေးငါးဆယ်ရက် မပြောနဲ့၊ တစ်ရက်လေးတောင် နေနိုင်မှာ မဟုတ်ဘူး"

"ဟို... သန္ဓေသားကတော့ ခွေးအန်ဖတ်လို အလွန်မှ ရွံစရာကောင်းတဲ့ အစာသစ်ကို၊ မင်းပဲကြည့်၊ ကောင်းပေ့ဆိုတဲ့ ကြက်သားတို့, ဝက်သားတို့နဲ့ ထမင်းကိုရောပြီး ပါးစပ်နဲ့ဝါး၊ ပြန်ထွေးထုတ်ကြည့်ရင် ရွံစရာပဲဟာ၊ အခု သန္ဓေသားဟာ အဲဒီ အစာသစ်အိမ်ကို ဆယ်လလုံးလုံး ခေါင်းနဲ့ရွက်ထားရတာတဲ့

တစ်ခါ ဟို... မိုက်ထဲမှာ ခေါင်းပေါ်က လေးလှချည့် ချပေးပါ လို့လဲ ပြောလို့ရတာ မဟုတ်ဘူး"

"ဒီအတိုင်းပဲ ငုတ်တုတ်လေး ထိုင်နေရရှာတာနော်"

"မှန်ပါဘုရား"

"နောက် မင်းစဉ်းစားကြည့်၊ အစာဟောင်း (ကျင်ကြီး) ကကော ပုပ်စော်နံနေတာ၊ ဒီအနံ့အသက်တွေ ဘယ်လောက်ဆိုး လဲ၊ ကျင်ကြီးတွေ ထည့်ထားတဲ့ ကျင်းကြီးထဲ မင်းဆင်းကြည့်၊ ထိုင်ကြည့်ပါလား"

"အမယ်လေး... ကိုယ်တော်ရယ် ရွံလွန်းလို့ပါ"

"ပေါက်ကျော်"

"ဘုရား"

"ဒါ ပဋိသန္ဓေဆင်းရဲနော်"

"ဟုတ်ပါ့ဘုရား"

"အဲလို ဉာဏ်လေးနဲ့ စဉ်းစားကြည့်ရတာ"

"နားလည်သွားပြီ ဘုရား"

"တစ်ခါ မင်းတို့ စဉ်းစားကြည့်၊ ဗိုက်ထဲနေရတယ်ဆိုတာ သက်သာတာမဟုတ်ဘူး၊ ငရဲမီးလျှံလို ပူလောင်နေတာ၊ မိခင်ရဲ့ကိုယ်ငွေ့ အပူတို့၊ ဝမ်းမီးအပူတို့က သိပ်ပူတာ၊ ဟို... ဥပမာကွာ... မုန့်အိုးထဲက မုန့်ကို မီးနဲ့နှပ်ထားသလို ပူနေတာတဲ့၊ မင်းတို့ ဘတ်စ်ကားစီးတော့ လူတွေက သိပ်ကြပ်နေတာ၊ သူ့ကိုယ်ငွေ့ ကိုယ့်ကိုယ်ငွေ့နဲ့ဟာ ဘယ်လောက်အနေဆင်းရဲသလဲ အဲဒီထက်ဆိုးတာ"

"ဒီကြားထဲ မိခင်က ညောင်းညာလို့ ကိုယ့်လက်ကို ဆန့်လိုက်ရင် အံမယ်လေး... ကိုပေါက်ကျော်ရယ်၊ တို့ ဟိုလေလွန်ကြိုးကို တစ်ဖက်နဲ့တစ်ဖက် ဆွဲဆန့်လိုက်သလို သန္ဓေသားမှာ အလွန့်ကို နာကျင်တဲ့ဆင်းရဲကို ခံစားရတာ၊ ခါးတို့ ဘာတို့ ပြတ်ထွက်မသွားရုံတမယ်တဲ့"

"တစ်ခါ အမေလုပ်သူက ကွေးအိပ်လိုက်ရင် သူ့ခမျာ ခါးကို လှန်ချိုးလိုက်သလို နာလှတယ်၊ အမိလုပ်သူရဲ့ သွားလာလှုပ်ရှားမှုအလိုက် အထဲကနေ မျက်ကနဲ၊ စစ်ကနဲ အမျိုးမျိုး နာကျင်နေတယ်"

"ဒီအထဲ အမေက အအေးစားရင် သူ့ခမျာ ငွမ်းဖတ်လေးလို နုနေတော့ အေးလိုက်တဲ့ဖြစ်ခြင်း၊ သီတငရဲအိုးထဲ ကျသလိုတဲ့"

"မင်း သီတငရဲကော သိလား"

"အမိန့်ရှိပါ ဘုရား"

"ဒီငရဲက အကုသိုလ်ကံအလျောက် ကျရောက်သွားတဲ့ ငရဲသားတွေဟာ အုတ်နံရံ၊ လိုဏ်တံခါး စတာတွေမှာ တွဲလွဲဆွဲနေရတဲ့ လင်းနို့တွေလိုတဲ့၊ စကြဝဠာတစ်ဖက်မှာ တွဲလွဲဆွဲနေရရှာတာ၊ အဲလိုနေရင်း လက်က ပြုတ်သွားတာနဲ့ အလွန်အေးတဲ့ သီတငရဲအတွင်း ကျသွားရော၊ အဲလိုကျတာနဲ့ အရိုးအသားတွေ ရှာမရအောင်ကို မှုန့်မှုန့်ညက်ညက် ကြေမွသွားသတဲ့၊ အဲလိုကြေမွပြီးတာနဲ့ တစ်ခါပြန်ပြီး ငရဲသားဖြစ်၊ ခုနလို ပြန်ပြီးတွယ်ကပ်နေ၊ လက်ကပြုတ်ရင် ပြန်ကျ၊ ပြန်ဖြစ်နဲ့ဟာ သူ့အကုသိုလ်ကံ မကုန်မချင်းခံရတာ ကိုပေါက်ကျော်"

"ကြောက်စရာပါလား ဘုရား"

"မင်းကြောက်ရင် အကုသိုလ်ရှောင်ပေါ့"

"အောင်မာ... မင်းက ပြောရတယ်လို့ မောင်သန့်ဇင်ရာ၊ နို့... မင်းကော မကြောက်ဘူးလား"

"ကြောက်လို့ ဥပုသ်စောင့်နေတာပေါ့"

"အံမယ်... ဒီလိုတော့ ငါလဲပြောတတ်တာပေါ့"

"ကဲ... ကဲ တစ်ခါ ပူတဲ့အစားအစာကို မိခင်ကစားတော့လဲ မီးမိုးကြီးရွာချသလို တဖျပ်ဖျပ်နဲ့ အလွန်ပူပြင်းတဲ့ဆင်းရဲကိုလဲ ခံရသေးတာ"

"တစ်ခါ အချဉ်တို့၊ အစပ်၊ အငန်တို့ စားရင်လဲ သန္ဓေသားလေးမှာ ဓားနဲ့မွှန်းပြီး ဆားငန်ရည်တို့၊ ရှောက်သီးရည်တို့နဲ့ ပက်သွင်းလိုက်သလို တွန့်တွန့်လူး အခံခက်တဲ့ဆင်းရဲကို ခံရပြန်တယ်"

"အဲလို ဆင်းရဲတာကွ၊ လောကမယ် ဆင်းရဲလှချည့်ဆိုတဲ့ ဆင်းရဲတွေထဲမှာ မိခင်ဝမ်းထဲမှာ ပဋိသန္ဓေနေရတဲ့ ဆင်းရဲက အဆရာထောင်မက သာတာ"

"ဒီတော့ ဇာတိဒုက္ခကို ကြပ်ကြပ်ကြီးကြောက်လန့်ပြီး ငြီးငွေ့စက်ဆုပ်နိုင်ရမယ်၊ ဇာတိဒုက္ခ၊ ဇာတိဒုက္ခနဲ့ကို ပဋိသန္ဓေနေရတာ ဆင်းရဲလိုက်တာ၊ ပဋိသန္ဓေနေရတာ ဆင်းရဲလိုက်တာနဲ့ကို ပွားများနေရမှာ ကိုပေါက်ကျော်"

"မှန်ပါ၊ အခု ဒီဒုက္ခကို တပည့်တော် သဘောပေါက်သွားပြီ၊ ကြောက်လဲ ကြောက်သွားပြီး ဘုရား"

"အဲလို ပဋိသန္ဓေနေရတဲ့ ဇာတိဒုက္ခကို ငြီးငွေ့နိုင်မှ နောက်ထပ် ခန္ဓာငါးပါး ထပ်ဖြစ်ရမှုကို ကြောက်လန့်မှာ၊ အဲလို ကြောက်လန့်မှ၊ ငြီးငွေ့မှ၊ ထိတ်လန့်မှ နိဗ္ဗာန်ချမ်းသာကို ရရာ ရကြောင်း အလုပ်တွေကို လုပ်ဖြစ်ကြမှာ၊ နိဗ္ဗာန်ရောက်ကြောင်း အလုပ်တွေလုပ်မှလဲ နိဗ္ဗာန်ရမှာပေါ့၊ ဘာမှမလုပ်ဘဲ ဆုတောင်းရုံ သက်သက်နဲ့တော့ မရနိုင်ဘူး၊ ဆုလဲတောင်း၊ အလုပ်လဲလုပ်ရမှာ၊ ဗုဒ္ဓက 'သီဝံ ပတ္တေထ ဘိက္ခဝေ' ချစ်သားတို့ နိဗ္ဗာန်ကိုဆုတောင်း ကြတဲ့လေ"

"နောက် ဇရာဒုက္ခ၊ အိုခြင်းဆင်းရဲတဲ့၊ ဒါက ထင်ရှား ပါတယ်။ အိုလာပြီဆိုမှဖြင့် ခန္ဓာကိုယ် အစိတ်အပိုင်းတွေ ရင့်ရော် လာမယ်၊ ဆံဖြူမယ်၊ သွားကျိုးမယ်၊ မျက်စိတွေ မှုန်လာမယ်၊ နားထိုင်းတာတို့၊ ခါးကုန်းတာတို့၊ အရေတွန့်တာတို့ ဖြစ်လာမယ်၊ မှဲ့စွန်းတွေကလဲ ဟိုကထွက်၊ ဒီကထွက်နဲ့ကိုး။ အားအင်တွေ ကုန်ခန်းလာတော့ စိတ်သွားတိုင်း ကိုယ်မပါတော့ဘူးလေ"

"ဒီ ဇရာဒုက္ခ၊ သူတစ်ပါး ဖြစ်နေတာကိုလဲ တွေ့ရ တယ်၊ ကိုယ့်ဘာသာကိုလဲ ခံစားရတာပဲ၊ ပေါက်ကျော်လဲကြည့်၊ မွေးလာတော့ ငယ်ငယ်လေး၊ ငယ်ရာမှ လူလတ်၊ လူလတ်ပိုင်း ကနေ အခု လူကြီးဖြစ်လာပြီ"

"တပည့်တော်က လူလတ်ပိုင်းပဲ ဘုရား၊ ကြီးတာက ကိုအုန်းမြတို့၊ တင်ဝင်းတို့ ဘုရား"

"ဟုတ်ပါတယ်၊ ဒါက သဘောပြောတာ မောင်ပေါက်ကျော်"

"မှန်ပါ ဘုရား"

"ဒီတော့ သတ္တဝါတွေဟာ ဒီအိုခြင်းတရားကို ဘယ်သူ လွန်ဆန်နိုင်လို့တုန်း၊ ပုန်းလဲမရ၊ ရှောင်လဲမရနဲ့ဟာ၊ ဆေးစွမ်းကောင်းတွေ စားတော့ကောရလို့လား၊ မအိုဘဲနေလို့လား၊ အိုကို အိုရမှာ၊ အိုလာရင် ဇရာဒုက္ခကို ခံစားကြရမှာချည်းပဲ"

"ဒီတော့ အဲဒီအိုခြင်းတရားကိုလဲ ဆင်ခြင်ကြရမှာတဲ့၊ ဆင်ခြင်နိုင်မှ ကိုယ့်မှာ သံဝေဂဉာဏ်တွေ ရင့်သန်လာမှာ"

"ဟိုကွာ... အိုမင်းမစွမ်းတဲ့ အဘိုးအို၊ အဘွားအိုတွေ မြင်တော့ သနားလိုက်တာ၊ ဒီလိုတော့ သနားကရုဏာစိတ်တွေ ဖြစ်တတ်ပါရဲ့၊ အဲ... ဒီအိုခြင်းဒုက္ခ ငါလဲ အချိန်နဲ့အမျှ နှိပ်စက်နေပါကလားလို့ သတိ မပြုမိတတ်ဘူး၊ သူများအိုတာကိုပဲ မြင်တယ်၊ သနားတယ်၊ ကိုယ့်မှာ အိုနေတာကိုတော့ သနားရမှာ

မသိဘူး၊ ကိုယ့်မှာအိုတာကို သနားရင် ဒီအိုမှုဒုက္ခကို လွန်မြောက်အောင် သံဝေဂဉာဏ် ထူထောင်ရမှာ"

"ဒါနဲ့ ဒီအိုမင်းရင့်ရော်ခြင်းကို ကြည့်ပြီး နိဗ္ဗာန်ရောက်ကြပုံကို ပြောရဦးမယ်"

"မှန်ပါ၊ ပြောပါ ဘုရား"

"တို့ ပဒုမဝတီရဲ့ သားငါးရာပေါ့၊ သူတို့က မင်းသားတွေဆိုတော့ တစ်နေ့ နှစ်ကြိမ်ကျ ရေကန်တော်မှာ ပျော်မြူးကြသတဲ့။ အထိန်းတော်၊ အချီတော်၊ အချော့တော်တွေလဲ ပါတာပေါ့၊ အဲလို နေ့စဉ် ကစားကြရာမှ တစ်နေ့တော့ သူတို့ကစားတဲ့ ရေကန်ထဲက ကြာပန်းတစ်ပွင့် ညှိုးနေတာကို အစ်ကိုကြီးက တွေ့သတဲ့၊ တွေ့တော့ စဉ်းစားသတဲ့"

"အဲလေ... မနက်ကတွေ့တုန်းက လန်းလန်းဆန်းဆန်းရယ်၊ ကြာပန်းရနံ့လေးက တသင်းသင်းနဲ့ဟာ၊ အခုတော့ ကြာပန်းရနံ့လဲ မရှိပြီ၊ လန်းဆန်းမှုလဲ မရှိပြီ၊ မကြာခင် ကြွေကျရတော့မယ်၊ ကြာဆိုတာကလဲ ရေကို အမှီသဟဲပြုပြီး ရှင်နေရတာ၊ အခုတော့ အရှည်မတည်နိုင်ဘဲ ပျက်စီးရတာပါကလား"

"တို့မှာကတော့ ဆံပင်၊ မွေးညင်း၊ ခြေသည်း၊ လက်သည်း၊ သွား၊ အရည် စတဲ့ ၃၂-ကောဋ္ဌာသတွေ စုပေါင်းထားတဲ့ ခန္ဓာငါးပါး၊ ရုပ်နာမ်တရားတွေပဲ၊ ဘယ်လိုလုပ်ပြီး မပျက်မစီး

ဘဲ ခံနိုင်မှာလဲ၊ တစ်နေ့မှာ ပျက်စီးရမှာပါကလားလို့ သံဝေဂ ဉာဏ်ပွားနေသတဲ့၊ အဲဒီလို ပွားပြီးရော ရေကစားနေတဲ့ သူ့ညီတော်တွေကိုခေါ်ပြီး ကြာပန်းရဲ့ ညှိုးနွမ်းပုံကို ပြသတဲ့''

''ညီတော်တို့... ရှုကြည့်ကြ၊ မနက်က တို့လာတုန်းက ဒီကြာပန်းဟာ လန်းလန်းဆန်းဆန်းကြီးပဲ၊ ကြာပန်းရနံ့လေး တသင်းသင်းနဲ့၊ အခုတော့ အနံ့လဲကင်းပြီ၊ ကြာပန်းလဲ ညှိုးနွမ်းနေပြီ၊ မကြာခင် ပျက်စီးရတော့မှာကွယ်''

''အဲလိုပဲ တို့မှာလဲ ကြီးရင့်ခြင်း ဇရာတရားက တစ်နေ့ တစ်နေ့ နှိပ်စက်လာနေပြီ၊ ဒီအိုခြင်းတရားကို တို့တစ်တွေ မလွန်ဆန်နိုင်ဘူး၊ အမြဲမုချ တိုး၍ တိုး၍သာ တွေ့ကြရမှာ၊ အဲဒါ သံဝေဂယူကြလို့ အမိန့်ရှိပြီး ညီတော်၊ နောင်တော် ငါးရာတို့ဟာ အိုခြင်း ဇရာသဘောကို ဆင်ခြင်ပွားများလိုက်တဲ့ ခဏမှာပင် ပစ္စေကဗုဒ္ဓါ အသီးသီး ဖြစ်သွားကြသတဲ့''

''အဲလို ငါးရာစလုံး ပစ္စေကဗုဒ္ဓါတွေလဲဖြစ်ရော ကြာဖက်တွေပေါ်မှာ ထိုင်နေသတဲ့''

''ဒီအခါမှာ အထိန်းတော်တွေက ကိုယ်တော်လေးတို့ နန်းတော်ပြန်ဖို့ အချိန်ကျပြီ၊ တက်လာခဲ့ကြပါ၊ ဟိုက ခမည်းတော်၊ မယ်တော်တွေ စိတ်ပူနေလိမ့်မယ်လို့ ပြောတာကိုး''

"အဲလိုပြောတော့ ဟော့... ငါတို့မှာ ခမည်းတော်၊ မယ်တော်ဆိုတာလဲ မရှိဘူး၊ နန်းတော်တို့၊ ဘာတို့လဲ မရှိဘူး။ ငါတို့က ဂန္ဓမာဒနတောင်က နန္ဒမူလိုဏ်မှာ စံမြန်းကြတော့မယ့် ပစ္စေကဗုဒ္ဓါတွေလို့ ပြောသတဲ့"

"ဒီတော့ အထိန်းတော်တွေက...

"ဟင် ကိုယ်တော်တို့ဟာက ပစ္စေကဗုဒ္ဓါတွေလို့လဲ ဆိုသေးတယ်၊ အရှင်တို့ ပုံသဏ္ဌာန်က ဆျောင်ထုံးနဲ့၊ ပေါင်းတော်နဲ့၊ နားပန်တော်နဲ့၊ ဝတ်လဲတော်တွေနဲ့ပါကလား၊ ဘယ်မှာလဲ ကိုယ်တော်တို့ရဲ့ သပိတ်၊ သင်္ကန်းတွေက"

"အဲလိုပြောတာနဲ့ ပစ္စေကဗုဒ္ဓတွေက သူတို့လက်တော်တွေနဲ့ သုံးသပ်လိုက်တာ ဆျောင်ထုံးလဲပျောက်၊ နားပန်တော်တို့၊ ဝတ်လဲတော်တို့လဲ အားလုံးပျောက်သွားပြီး ဝါ (၆၀) ရတဲ့ မထေရ်ကြီးများလို သပိတ်၊ သင်္ကန်းတွေ အစုံအညီနဲ့ ပစ္စေကဗုဒ္ဓငါးရာ ဖြစ်ကြရှာတယ်"

"ဒါ ဇရာဒုက္ခကို ရှုရင်း မဂ်ရ၊ ဖိုလ်ပေါက်နဲ့ နိဗ္ဗာန်ချမ်းသာကို ရသွားကြတာ"

"နောက်ရှိသေးလား ဘုရား၊ ရှိရင် အမိန့်ရှိပါဦးဘုရား"

"ရှိပြီပေါ့ မောင်ပေါက်ကျော်"

## အနိတ္ထိဂန္ဓမင်းသား

"တို့ကဿပဘုရားရှင် လက်ထက်ကတဲ့၊ ပစ္စေကဗုဒ္ဓါ အလောင်းအလျာတစ်ပါးဟာ ရဟန်းတရားကို အနှစ်နှစ်သောင်း အားထုတ်တာတောင် တစ်မဂ် တစ်ဖိုလ်ဆိုတာကို မရရှာဘူး၊ အဲဒါ အဲဒီဘဝက စုတေတော့ ဗြဟ္မာ့ပြည်မှာ ဗြဟ္မာကြီးသွားဖြစ်တယ်"

"အဲ... ဗြဟ္မာဘဝက စုတေပြန်တော့ တို့လူ့ပြည်က ဗာရာဏသီပြည်မှာ ဗာရာဏသီမင်းကြီးရဲ့ မိဖုရားခေါင်ကြီးဝမ်းတွင်းမှာ ပဋိသန္ဓေနေတယ်တဲ့၊ ပေါက်ကျော်"

"မှန်ပါ အရှင်ဘုရား"

"အံ့စရာကွ... ဖွားမြင်လာတော့လဲ အဲဒီမင်းသားလေးက မိန်းမတွေ ကိုင်လို့၊ ထိလို့ မရဘူးတဲ့၊ မင်းသားလေးက မိန်းမတွေ ထိလိုက်တာနဲ့ တွန့်တွန့်သွားတယ်။ ဒါနဲ့ပဲ မိန်းမတွေကို ယောကျာ်းလို ဝတ်ဆင်စေပြီးမှ နို့တိုက်တာတို့၊ ဘာတို့ ဆိုတာတွေ လုပ်စေရသတဲ့"

"ပေါက်ကျော်တို့နဲ့များ ကွာပါ့ကွာ၊ ပေါက်ကျော် ငယ်ငယ်က ယောကျ်ားတွေ ချီပိုးလို့ ရတာ မဟုတ်ဘူး ဘုရား၊ မိန်းကလေးတွေ ချီမှတဲ့"

"မှန်ပါ၊ ဒါတောင် တပည့်တော်က အပျိုချီမှ ဘုရား"

"ဟော… မင်း ဖောက်ပြန်ပြီ"

"မဟုတ်ပါ… ပျော်လို့ ဘုရား"

"အရှင်ဘုရား ဒါဟာ အရင်က တရားကျင့်လာတဲ့ အထုံနေမှာ၊ ဟို ရဟန်းဘဝနဲ့ အနှစ်နှစ်သောင်း အားထုတ်ခဲ့ မဟုတ်လား"

"ဟ… မင်း ဘယ်ဆိုးလို့လဲ ပေါက်ကျော်၊ တွေးတတ်သားကိုး"

"အံမယ်… ပေါက်ကျော်က ပြုံးစိစိမျက်နှာနဲ့ ဆရာတော် ချီးကျူးကာမှ"

"ဒါကတော့ ဖိုးသန့်ဇင်ရာ ဟီဟိ… တော်မှာပေါ့၊ ရှာဦးကိုယ်တော့်တပည့်ပဲဥစ္စာ"

"ပေါက်ကျော် မင်းကတော့ ငါ့ဆွဲထည့်ပြန်ပြီ"

"အဲ… ဒါနဲ့ ဒီမင်းသားလေးက အဲလို မိန်းမကြောက်ပြီး မိန်းမတို့ရဲ့ အနံ့အသက်တွေ မခံနိုင်တဲ့ မင်းသားမို့ နာမည်

မှည့်တော့ အနိတ္တိဂန္ဓရယ်လို့ မှည့်ကြတယ်၊ အဓိပ္ပာယ်က မိန်းမ အနံ့ မခံနိုင်တဲ့ မင်းသားပေါ့"

"အဲ... (၁၆) နှစ်သား အရွယ်ရှိလာတော့ သူ့ခမည်းတော်ကြီးက သူတို့မင်းဆက် ပြတ်မသွားရအောင်ဆိုပြီး ထိုထိုအရပ်ဒေသတွေမှာရှိတဲ့ မိန်းမချော၊ မိန်းမလှလေးတွေကို နေပြည်တော်ကို ခေါ်လာဖို့ အမတ်ကြီးတစ်ယောက်ကို တာဝန်ပေးလိုက်သတဲ့။

"ဒါနဲ့ အမတ်ကြီးကလဲ ချောပေ့ဆိုတာလေးတွေကို လက်ရွေးစင်ခေါ်ပေးရော"

"ကဲ... အမတ်ကြီးရေ၊ ဒီအချောအလှလေးတွေနဲ့ ကျုပ်သားကို မြူဆွယ်ပေးပါလို့ အမိန့်ရှိပြီး အပ်နှံလိုက်တယ်"

"အဲဒါ အမတ်ကြီးက အနိတ္တိဂန္ဓမင်းသားရဲ့ သလွန်တော်နားမှာ တင်းတိမ်ကုလားကာတွေ ကာရံ၊ အပြင်ကနေ မိန်းကလေးတွေ နေရာချပေးပြီး ညညဆို ငြိမ့်ပြောင်းသာယာစွာ သီဆိုတီးမှုတ်စေသတဲ့"

"ဒါ ကာမဂုဏ်နဲ့ မျှားတာနဲ့တူတယ်"

"ဟုတ်ပါ့ မောင်တင်ဝင်းရာ၊ မင်းလို လူပျိုကြီး မဖြစ်အောင်လို့ပေါ့"

"ကိုပေါက်ကျော်ကတော့ လုပ်ချလိုက်ပြန်ပြီ"

"အဲလို ဖျော်ဖြေသံကို ကြားရတော့ မင်းသားက မေးသတဲ့"

"ဟော့... ဘာသံတွေ ဆူညံနေတာလဲကွ၊ နားငြီးတယ်ဟေ့၊ ငါ သည်းမခံနိုင်ဘူးလို့ အမိန့်ရှိပါရော၊ ဒီတော့ မင်းသားအနားမှာ ချဉ်းကပ်ခစားနေတဲ့ အကြီးတော်တစ်ယောက်က...

"ဒီလိုပါ အရှင့်သားရယ်၊ အခု တီးမှုတ် သီဆိုနေတာတွေက ကချေသည်မ အချောအလှလေးတွေပါ၊ ဒါကလဲ အရှင့်ဘုန်းစွမ်း ကံစွမ်းကြောင့် ဖြစ်ရတာပါ၊ ဒါကြောင့်မို့ အရှင့်အနေနဲ့ နှစ်သက်စွာ ခံစားတော်မူပါဘုရားလို့ လျှောက်ထားရှာတယ်။

"နို့ပေမယ့် မင်းသားက လက်မခံဘူး၊ လက်မခံရုံမကဘူး၊ အခုလိုစီစဉ်တဲ့အမတ်ကို မင်းဒဏ်ခတ်ပြီး အရပ်တစ်ပါးနှင်စေလို့ အမိန့်တော် ချလိုက်သတဲ့။

"ဒီအခါ ခမည်းတော်နဲ့ မယ်တော်က အမတ်ကို အပြစ်မပေးဖို့ ပျာပျာသလဲ တောင်းပန်ကြတယ်၊ အဘယဒါနပေးဖို့ အကြောင်းပြောပြီး အမတ်ကိုလဲ မင်းသားထံ ဝန်ချတောင်းပန်ခိုင်းကြတယ်။

"ဒီနောက်လဲ ကာမဂုဏ်အာရုံ အမျိုးမျိုးနဲ့ မြူဆွယ်ဖြားယောင်းတာပဲ၊ ဘယ်လိုမှ မရဘူး၊ မင်းသားက မရရှိမကဘူး၊ ကာမဂုဏ်ကို ခွာနိုင်လို့ ပထမစျာန်တောင် ရနေသေးတယ်။

"နို့ပေမယ့် မင်းသားမှာလဲ မသက်သာဘူး၊ တစ်မျိုးမရ တစ်မျိုးနဲ့ဆိုသလို မြူဆွယ်နေတော့ ကြာတော့လဲ စိတ်ညစ်လာတာ့ပေါ့"

"ဟုတ်ပါ့ဘုရား၊ သူတို့ကမှ လက်မလျှော့တာကိုး"

"အဲလို စိတ်ညစ်ရလွန်းတော့ မထူးဘူးဆိုပြီး ရွှေစင်ရုပ်တုတစ်ရုပ် သွန်းလုပ်ပေးပြီး ဒီရွှေစင်ရုပ်နဲ့ တူတာကိုရရင်တော့ ယူမယ်လို့ ပြောလိုက်သတဲ့။

"မင်းကြီးလဲ ဝမ်းသာလွန်းလို့ ဟော့... အမတ်ကြီးတို့၊ လမ်းစပွင့်ပြီကွ၊ ကဲ... ကဲ ရွှေစင်ရုပ်တုကို မင်္ဂလာလှည်းပေါ် တင်ပြီး လိုက်ရှာကြစမ်း၊ ရအောင်ရှာခဲ့ကြနော်" ဟု အမိန့်ရှိတော့

"စိတ်ချပါ မင်းကြီးလို့ဆိုပြီး အရှာထွက်ကြတယ်၊ တစ်နိုင်ငံပြီး တစ်နိုင်ငံ မတွေ့မချင်းရှာတာကိုး၊ ဘယ်မှာမှ မတွေ့ကြဘူး"

"အရှင်ဘုရား သူတို့ကလဲ ဒီလောက်ရှားသတဲ့လား"

"ရှားလို့နေမှာပေါ့ကွ၊ ဒါနဲ့ စိတ်ပျက်ပြီး ပြန်လှည့်လာကြတယ်၊ လမ်းကျတော့ မဒ္ဒရာဇ်ဆိုတဲ့ နိုင်ငံငယ်လေးတစ်နိုင်ငံကို ကျော်ဖြတ်ရသေးတာကိုး။

"ဒီတွင် သူတို့က ဒီနိုင်ငံသေးသေးလဲ ရှိချင်ရှိမှာဆိုပြီး သူတို့ မင်္ဂလာလှည်းကို ရေဆိပ်ဘက် မောင်းသွားကြတယ်"

"ဟင်... နန်းတော် မမောင်းဘဲ ရေဆိပ်မောင်းရတယ်လို့"

"ရေဆိပ်မောင်းမှ တွေ့မှာပေါ့၊ ရေဆိပ်ဆိုတာက လူစုရှိတယ် မဟုတ်လား"

"ဟုတ်ပြီ ဘုရား"

"အဲ... အဲလိုမောင်းပြီး မင်္ဂလာလှည်းကြီး ရပ်ထားတယ်၊ ရွှေစင်ရုပ်က သိပ်လှတော့ သူငေးကြည့်၊ ကိုယ်ငေးကြည့်နဲ့ လှကွာ ချောကွာနဲ့ကို နေကြတာတဲ့။

"အဲ... အဲဒီနေ့မှာပင် မဒ္ဒရာဇ်မင်းရဲ့ ၁၆-နှစ်အရွယ် သမီးတော်လေးကလဲ ရေသဘင်ခံအပြီး နန်းတော်ပြန်ခါစ ရှိသေးတယ်၊ မင်္ဂလာလှည်းနဲ့ နည်းနည်းလေး လွဲသွားသတဲ့"

"ကံဆိုးချင်လို့ဖြစ်မှာ"

"မဆိုးဘူး မောင်ပေါက်ကျော်၊ မင်းသမီးရဲ့ အထိန်းတော်တွေက သူတို့သခင်မကို နန်းတော်ပြန်ပို့ပြီး မင်းသမီးအလစ်မှာ ရေဆိပ်ဘက်ကို ရေချိုးဦးမယ်ဆိုပြီး ပြန်လှည့်လာကြရော"

"ဟို ရွှေစာတို့ ဘာတို့ဆိုတာတွေနေမှာ"

"ဒီပေါက်ကျော် သူသိသလိုလိုနဲ့"

"ဒီလိုပဲ ရေးကြ ပြောကြတာ မောင်တင်ဝင်းရ"

"အဲ သူတို့ပြန်လာရင်ပဲ လူတွေဝိုင်းအုံနေတာတွေ့တော့ လူတွေအုံတဲ့ဆီ လှမ်းကြည့်ကြရော၊ လှမ်းကြည့်တော့...

"ဟော့ ဟိုမှာ တို့သခင်မလေး ပြန်လာတာလား မသိဘူး၊ လာသွားခစားကြရအောင်"

ဆိုပြီး လှည်းဆီပြေးလာကြတယ်။ အနားရောက်တော့မှ

"မဟုတ်ဘူးဟေ့၊ ရွှေစင်ရုပ်ကြီးဟဲ့၊ ဒါနဲ့များ ဝိုင်းအုံနေကြသေးတယ်၊ တို့သခင်မက သူ့ထက်လှတယ်"

လို့ဆိုပြီး ပြန်ထွက်သွားကြတယ်။

"ဒီတွင်မှူးမတ်တွေက ရွှေစင်ရုပ်ထက်သာတဲ့မင်းသမီးတွေ့ပြီဆိုပြီး မဒ္ဒရာဇ်မင်းကြီးထံ သူတို့လာတဲ့အကြောင်းကို

အကျိုးအကြောင်းတင်ပြကြတယ်၊ မင်းကြီးကလဲ သဘောတူတာနဲ့ သူ့သမီးချောလေးကို ထည့်ပေးလိုက်ပါတယ်။

"အဲဒီလို မင်းသမီးလေးရတော့ သူတို့မင်းကြီးထံ ခြေမြန်တော်တွေလွှတ်တယ်၊ ကိုယ်တော်တိုင် လာကြိုမှာလား၊ သူတို့ဘာသာ သူတို့မင်္ဂလာအခမ်းအနားနဲ့ ယူဆောင်ခဲ့ရမလား၊ ဘာလားနဲ့ပေါ့။

"မင်းကြီးကလဲ ဝမ်းသာလွန်းလို့ မင်းတို့ပဲ မင်္ဂလာအခမ်းအနားနဲ့ ခေါ်ဆောင်ခဲ့ကြလို့ အမိန့်ပေးပြီး အနိတ္တိဂန္ဓမင်းသားလေးကို ရွှေစင်ရုပ်နဲ့တူတဲ့ မင်းသမီးတစ်ပါးကို ယူဆောင်ခဲ့ပြီဖြစ်ကြောင်း သတင်းပို့ထားနှင့်တယ်။

"ဒီတွင် မင်းသားမှာ ရှေးရှေးဘဝတွေက ရေစက်ကြောင့်နဲ့တူတယ်၊ မင်းသမီးသတင်း ကြားတာနဲ့ကို ကိလေသာအစွမ်းနဲ့ တန်းတန်းစွဲကြီးကို မေတ္တာသက်ဝင်သွားသတဲ့။ ဒီမှာတင်ပဲ ပထမစျာန်လဲလျှောကျသွားတယ်၊ မင်းသားခမျာ မင်းသမီးကို တွေ့ချင်လွန်းလို့ ဇွေ့ဇွေ့ခုန်ကို ဖြစ်နေတာတဲ့။

"ဒါနဲ့ မင်းသားက အမြန်ခေါ်ဆောင်ခဲ့ဖို့ တမန်တော်တွေ အကြိမ်ကြိမ် စေလွှတ်ပြောကြားလိုက်တယ်"

"ဒီတော့ မှူးမတ်တွေကလဲ တစ်ရက်နဲ့ တစ်ညတည်းနဲ့ ဗာရာဏသီအရောက် ခရီးပြင်းယူဆောင်လာကြတာကိုး။ ရောက်တော့ မင်းကြီးထံ သတင်းပို့ရသေးတယ်၊ အခုပဲ မြို့တွင်းသွင်းရမလား၊ ဘာလားနဲ့ပေါ့ကွ"

"ဒီတော့မှ မသွင်းခဲ့နဲ့ဦး၊ မင်္ဂလာဥယျာဉ်မှာပဲ တစ်ညစံပါစေလို့ အမိန့်ရှိသတဲ့"

"ဒါနဲ့ပဲ မင်္ဂလာဥယျာဉ်ထဲမှာ မင်းသမီးလေး အဲဒီညကစံမြန်းတယ်ကွ၊ နို့ပေမယ့် မင်းသမီးက နုနုဖပ်ဖပ်လေးရယ်၊ ခရီးက သိပ်ကြမ်း၊ သိပ်ပန်းလွန်းတော့ အဲဒီညမှာတွင် နတ်ရွာစံ ကံကုန်ရှာပါရောတဲ့"

"ဟောဗျာ... ဟိုကိုယ်တော်တော့ ဒုက္ခပဲ"

"ဘယ်သူတင်ကမလဲ၊ မင်းနဲ့ပြည်သူတွေဆိုတာ အံမယ်လေး... တို့မှာ မင်းဆက်ပြတ်ပါပြီဆိုပြီး တိုင်းပြည်ပျက်သလို ငိုကြွေးလိုက်ကြတာမှ ဝက်ဝက်ကွဲရယ်"

"မင်းသားလေးလဲ ကျိတ်မနိုင်ခဲမရနဲ့ သောကဒဏ်ကို အလူးအလဲ ခံရှာရတာကိုး။

"အဲလို ချစ်ခြင်းဒုက္ခကို အလူးအလဲ ခံစားရင်းက ပါရမီဓာတ်ခံရင့်သန်တဲ့ ပုဂ္ဂိုလ်ဆိုတော့ သတိရလာတယ်။

“ငါ့သောက ဘယ်ကလာသလဲ၊ အဲလို စိန္တာမယဉာဏ်နဲ့ ဆင်ခြင်တော့ ‘ဩော် လက်စသတ်တော့ ဇာတိကြောင့်ပဲ၊ မင်းသမီးမှာ ဇာတိရှိတော့ သေခြင်းရှိလာတယ်၊ ငါလဲ ဇာတိရှိတော့ သောကမီးတွေ ပွားနေရတယ်၊ တကယ်လို့ ဇာတိမရှိရင် သောကလဲမရှိတော့ဘူး။

“ဒီနောက်တွင်တော့ မင်းသားက ပဋိစ္စသမုပ္ပာဒ်ကို အပြန်အလှန် ဆင်ခြင်သုံးသပ်ပြီး သင်္ခါရတရားအားလုံးကိုဆင်ခြင်ရင်းနဲ့ သလွန်ပေါ်မှာတွင် ပစ္စေကဗောဓိဉာဏ်ကြီးကို ရသွားရောတဲ့၊ ဒါဟာ ပဋိသန္ဓေဆင်းရဲကို မြစ်ဖျားခံပြီး သောကဖြစ်ရပုံတွေကို ဆင်ခြင်ရင်း ပစ္စေကဗုဒ္ဓါ ဖြစ်သွားတာနော်၊ သလွန်ပေါ်မှာ ဖလသမာပတ်ကို ဝင်စားနေရော့”

“မှန်ပါ အရှင်ဘုရား”

“ဒီအချိန်မှာတွင် မှူးမတ်တွေလိုက်လာပြီး–

“အရှင်သား သည်းခံပါ၊ မကြာခင် နောက်တစ်ယောက် ရှာဖွေဆက်သွင်းပေးပါ့မယ်လို့ လျှောက်ထားကြတော့ မင်းသားက–

“မလိုတော့ဘူး အမတ်ကြီးတို့၊ ကျုပ်ဟာ ပစ္စေကဗုဒ္ဓါ ဖြစ်သွားပါပြီ၊ ကာမဂုဏ် စည်းစိမ်တွေကို မခံစားတော့ပါဘူး”

လို့ အမိန့်ရှိပြီး မင်း၊ မှူးမတ်ဗိုလ်ပါအားလုံးကို စုဝေးစေလိုက်တယ်၊ ခမည်းတော်၊ မယ်တော်တို့အပါအဝင် ပရိသတ်စုံလင်တဲ့အခါ မင်းသားက-

"သံသဂ္ဂဇာတဿ ဘဝန္တိ သေနတာ အစချီသော ဂါထာကို ဟောတော်မူသတဲ့။ အဲဒီဂါထာ အဓိပ္ပာယ်က ဒီလိုတဲ့ မောင်ပေါက်ကျော်။

"ကာမဂုဏ်တရား ငါးပါးကိုလိုက်စားရင် ချစ်ခင်တွယ်တာတဲ့ တဏှာဖြစ်သတဲ့၊ အဲဒီ တဏှာကြောင့် စိုးရိမ်ပူဆွေးရတဲ့သောကဆိုတာ ဖြစ်ရတာ။

"အဲဒီ သောကကို ပညာနဲ့ မြင်အောင်ကြည့်ကာ ဖြတ်တောက်ပြီး ဆိတ်ငြိမ်ရာအရပ်မှာ အဖော်မမှီ တစ်ကိုယ်တည်း မဂ်ဖိုလ်ရအောင် ကျင့်ကြလို့ အဓိပ္ပာယ်ရတယ်"

"အဲလို တရားဟောပြီး မှူးမတ်ဗိုလ်ပါတို့ ရှေ့မှောက်မှာပင် ကောင်းကင်ပေါ်ပျံတက်၍ ဂန္ဓမာဒနတောင် နန္ဒမူလိုဏ်ဂူသို့ ကြွမြန်းတော်မူသတဲ့"

## နန္ဒမူလိုဏ်ဂူ

"အရှင်ဘုရား ပစ္စေကဗုဒ္ဓါတွေက နန္ဒမူလိုဏ်ဂူကိုချည်း သွားကြသလား"

"အေး... အဲဒီကိုပဲ ကြွကြွသတဲ့"

"နို့... နန္ဒမူလိုဏ်ဆိုတာ ဘယ်လိုမို့လဲ"

"အရှင်ဘုရား နန္ဒမူလိုဏ်ဂူအကြောင်း ပြောပြပါဘုရား"

"အေး...ပြောပြမယ်၊ ဒီ ဂန္ဓမာဒနတောင်နန္ဒမူလိုဏ်ဂူဆိုတာ ပစ္စေကဗုဒ္ဓါ အရှင်မြတ်များ သီတင်းသုံး စံမြန်းတော်မူရာ ကျောင်းတိုက်ကြီးလို ဖြစ်နေတာ"

"ဒီတောင်၊ ဒီလိုဏ်ဂူဆိုတာ အတော့်ကို ကျက်သရေ မင်္ဂလာအပေါင်း ခညောင်းနေတဲ့တောင်၊ အလွန့်ကို ဆန်းပြားတင့်တယ်တဲ့ လိုက်ဂူတဲ"

"ဂန္ဓမာဒနတောင်မင်းရဲ့ ကျက်သရေက ချီးမွမ်းလို့မကုန်နိုင်အောင်ကို တင့်တယ်တယ်တဲ့ ပေါက်ကျော်"

"မှန်ပါ ဘုရား"

"အဲ... ဂန္ဓမာဒနတောင်ကို ရံပတ်ထားတဲ့ တောင်ခုနစ်လုံးက တစ်-စူဠကာလတောင်၊ နှစ်-မဟာကာလတောင်၊ သုံး-နာဂပလိဝေဌနတောင်၊ လေး-စန္ဒဂဗ္ဘတောင်၊ ငါး-သူရိယဂဗ္ဘတောင်၊ ခြောက်-သုဝဏ္ဏ မယတောင်နဲ့ ခုနစ်က ဟိမဝန္တာတောင်တို့ ဖြစ်ကြတယ်"

"ဒီတောင် ခုနစ်လုံးဆိုတာကလဲ အနိမ့်အမြင့် ဆင့်ကာဆင့်ကာနဲ့ ဂန္ဓမာဒနတောင်မင်းကို ရံပတ်ထားသတဲ့၊ အဲဒီ အရံတောင်ခုနစ်လုံးတို့ အလယ်ကောင်မှာမှ ဂန္ဓမာဒနတောင်မင်းက အခုန အရံတောင်ခုနစ်လုံးကို လွှမ်းမိုးပြီး တည်ရှိနေတာကိုး၊ တောင်မင်းရဲ့အတွင်းပိုင်းဆိုတာက ပဲနောက်အဆင်းရှိတဲ့ ကျောက်ဖြင့်ပြီးသတဲ့။ နံ့သာမျိုးဆယ်မျိုးရဲ့ ရနံ့တွေကလဲ တသင်းသင်း တပျံ့ပျံ့နဲ့ ကြိုင်လှိုင်နေတာ၊ နို့... နံ့သာမျိုးဆယ်ပါးဆိုတာကော မင်းတို့သိလား"

"မသိပါ ဘုရား၊ အမိန့်ရှိပါ"

"အေး... မှတ်ထားကွ၊ တစ်က ကာလာနုသာရီ စတဲ့ အမြစ်နံ့သာ၊ နှစ်က စန္ဒကူးစတဲ့ အနှစ်နံ့သာ၊ သုံး- ထင်းရှူးစတဲ့ အကာနံ့သာ၊ လေး-သစ်ကြံပိုးစတဲ့ အခေါက်နံ့သာ၊ ငါး-သီးစတဲ့ အတာနံ့သာ၊ ခြောက်- ပွဲ့လျက်စဟဲ့ အရည်နံ့သာ၊ ခုနစ်- ကွမ်းစတဲ့ အရွက်နံ့သာ၊ ရှစ်- ကံ့ကော်၊ မာလာကျိုကျူစတဲ့ အပွင့်နံ့သာ၊ ကိုး ဇာတိပ္ဖိုလ်စတဲ့ အသီးနံ့သာ- တစ်ဆယ်-အလုံးစုံ ရနံ့လှိုင်တဲ့ သက်န်းစတဲ့ ပင်စည်နံ့သာ။ အဲဒါအားလုံး ဆယ်မျိုးရှိတယ်၊ အဲဒီ နံ့သာဆယ်မျိုးရဲ့ အနံ့တွေကလဲ မွှေးပျံ့နေတာတဲ့"

"ဒါတင် မကသေးဘူး၊ အလွန် အမျိုးအစား များပြားလှတဲ့ ဆေးပင်တို့ကလဲ ဖုံးလွှမ်းပေါက်ရောက်နေသေးတယ်။ တစ်ခါ လဆုတ်ပက္ခဖြစ်တဲ့ ဥပုသ်နေ့မျိုးမှာဆိုရင် မီးတောက်မီးလျှံတွေ တဝင်းဝင်း၊တပြောင်ပြောင်တောက်နေသလို ဂန္ဓမာဒနတောင်မင်းဟာ အလွန်ကို ကျက်သရေတင့်စွာနဲ့ ထွန်းလင်းတောက်ပနေတာတဲ့ ပေါက်ကျော်"

"မှန်ပါ အရှင်ဘုရား"

"ဒီ ဂန္ဓမာဒနတောင်မင်းမှာမှ ပစ္စေကဗုဒ္ဓါ အရှင်မြတ်များ စံမြန်းတော်မူရာ နန္ဒမူလိုဏ်ဂူဆိုတာ ရှိတာ"

"ဒီ နန္ဒမူလိုဏ်ဂူဆိုတာ ရွှေအတိပြီးတဲ့ လိုဏ်ကကတစ်ဂူ၊ ငွေအတိပြီးတဲ့ လိုဏ်က တစ်ဂူနဲ့ အဲဒီ ရွှေဂူ၊ ငွေဂူ နှစ်ခုတို့ရဲ့ အလယ်မှာမှ ပတ္တမြားအတိပြီးတဲ့ လိုဏ်ဂူတစ်ဂူက တည်နေတယ်၊ ဒီတော့ အားလုံး ရွှေ၊ ငွေ၊ ပတ္တမြားဆိုတဲ့ ဂူက သုံးဂူရှိတာ"

"တစ်ခါ အဲဒီအလယ်ကောင်က ပတ္တမြားဂူမှာမှ မဉ္ဇူသက ပန်းပင်ကြီးပေါက်နေတာ၊ လုံးပတ်ကကို တစ်ယူဇနာရှိသတဲ့၊ တစ်ယူဇနာကို ရှစ်မိုင်နဲ့တွက်ရင် လုံးပတ် ရှစ်မိုင်ရှိတယ်၊ ၁၂ မိုင်နဲ့တွက်ရင် ၁၂ မိုင်ပေါ့"

"ဟော... မဥ္ဇူသကပန်းပင်ရဲ့ အမြင့်ကလဲကြည့်ပါဦး၊ အရှေ့ဘက်က တစ်ကိုင်း၊ အနောက်ဘက်က တစ်ကိုင်း၊ တောင်ဘက်က တစ်ကိုင်း၊ မြောက်ဘက်က တစ်ကိုင်းနဲ့ အရပ်လေးမျက်နှာ အကိုင်းကြီးက လေးကိုင်းရှိသေးတယ်၊ တစ်ကိုင်း တစ်ကိုင်းကလဲ တစ်ယူဇနာချည်း ရှိသတဲ့"

"ဒါဆို နည်းနည်းနောနော အပင်ကြီးမှ မဟုတ်တာဘုရား"

"အေးလေ အဲလို မြင့်မြတ်ကြီးကျယ်တဲ့ ပန်းပင်ကြီးဟာ တစ်ခါ ဘယ်အထိ အံ့ဩစရာကောင်းလဲဆိုတော့ မဥ္ဇူသကပန်းပင်ကြီးရဲ့ အပွင့်ပွင့်ပုံပဲ"

"ဘာဖြစ်လို့လဲဆိုတော့ သူက ပန်းပွင့်ကို တစ်ပုံစံတည်း အမြဲပွင့်တာမှ မဟုတ်တာ"

"တို့ဆီမှာကတော့ ဥတုရာသီလိုက်ပြီး သူ့အခါနှင့်သူ ပန်းတွေက ပွင့်ကြတယ်၊ ပွင့်တော့လဲ သူ့အမျိုးအစားနဲ့သူ ပွင့်တာ၊ ဟော... စံပယ်ပွင့်တော့ စံပယ်၊ မြတ်လေးပွင့်တော့ မြတ်လေး၊ တစ်ခါ ခတ္တာတို့၊ ဇွန်ပန်းတို့စသဖြင့်ပေါ့လေ၊ သူ့ရာသီကျရင် ခတ္တာပွင့်၊ ဇွန်ပွင့်တို့ကလဲ သူ့အမျိုးအစားအလိုက် တစ်ပုံစံတည်းပွင့်တာ"

"မှန်ပါ"

"ဟော… မဒ္ဒူသက ပန်းပင်ကြီးကတော့ တို့ဆီက ပန်းတွေလို မပွင့်ဘူးတဲ့။

"ဘာကြောင့်ဆိုတော့ ပစ္စေကဗုဒ္ဓါ အရှင်မြတ်တို့ရဲ့ သီလဘာဝနာရဲ့ အစွမ်းကြောင့် ပွင့်ကြတာကိုး။ ဒီတော့ ပစ္စေက ဗုဒ္ဓါ အရှင်တို့ကြွလာတော့မှ ဒီပန်းပင်ကြီးက မျက်နှာကျက် ဗိတန်သဖွယ် ကြာယပ်၊ ရွှေပန်းဆိုင်း၊ ငွေပန်းဆိုင်း၊ ရွှေဆည်း လည်း၊ ရွှေညောင်ရွက်စတဲ့ အဆင်းတန်ဆာတွေလို ဒီအပင်ကြီး က ပွင့်လိုက်တဲ့ ပန်းပွင့်တွေက အသီးအသီး ဖူးသင့်တဲ့နေရာမှာ ဖူးလို့၊ ပွင့်သင့်တဲ့နေရာမှာ ပွင့်လို့၊ နွယ်သင့်တဲ့နေရာမှာ နွယ်လို့နဲ့ ဖူးကြပွင့်ကြတာတဲ့ မောင်ပေါက်ကျော်"

"မှန်ပါ ရောက်ဖို့မပြောနဲ့၊ ကြားရတာဖြင့်ပင် ကြည်နူး လှပါရဲ့ ဘုရား"

"ဟ… ပေါက်ကျော် ဘာလို့မရောက်ရမှာလဲ၊ မင်းမှာ သီလတွေရှိတဲ့ဟာ၊ ဒီသီလအစွမ်းက မင်း စကြဝတေးမင်းဖြစ်ချင် လားရတယ်။ စိတ်ချ၊ နတ်မင်း၊ ဗြဟ္မာဒတ်မင်းဖြစ်ချင်လားရတယ် ကိုပေါက်ကျော်၊ စိတ်ချ၊ ဒါတင်ဘယ်ကမလဲ ဘုရားတို့၊ ပစ္စေက ဗုဒ္ဓါတို့၊ ရဟန္တာတို့ ဖြစ်ချင်လား ရတယ်"

"အေး… ဟုတ်တယ်၊ ဒီပန်းပင်ကြီးရဲ့ အဖူးအပွင့် အနွယ်တို့ရဲ့အလှဟာ တွေးရမလားဆိုရင် ရတနာမျိုးစုံ စီခြယ်ထားတဲ့ မဏ္ဍပ်ကြီးများလားလို့ ထင်ရသတဲ့"

"တစ်ခါ ကြည့်ပါဦးတော့ မောင်ပေါက်ကျော်ရယ်၊ မင်းတို့ ငါတို့က ပန်းလိုချင်ရင် ခူးဆွတ်ယူကြရတာ၊ ဟို… နန္ဒမူလိုဏ်ဂူမှာက မဆွတ် မခူးရဘူး၊ အဲဒီ မဉ္ဇူသကပန်း ရဲ့အပွင့်တွေကို သြစိနရလေဆိုတာက ဆွတ်ခြွေပေးတာ"

"အဲလို ဆွတ်ခြွေလိုက်တော့ ပန်းပင်က ပန်းတွေက ဟိုတစ်စု ဒီတစ်စုနဲ့ ဖရိုဖရဲကျလာရော၊ ဒီတွင် အဲဒီကြွေနေတဲ့ ပန်းတွေကို ညီညီညာညာဖြစ်အောင်လုပ်ပေးတဲ့ သမကရဏလေ ကတိုက်ယူပြီး အရှင်မြတ်တို့ စံမြန်းရန် ပန်းမွေ့ရာ လုပ်ပေးသတဲ့"

"အဲလို လုပ်ပေးထားတဲ့ ပန်းမွေ့ရာပေါ် အရှင်တို့က သီတင်းသုံးတော့ ပန်းပွင့်တွေဟာ ကြွေမွှဟောင်းနွမ်းသွားရော ပေါ့၊ အချို့လဲ ခြောက်သယောင်းကုန်ရောပေါ့၊ အဲလိုဖြစ်သွားတဲ့ ပန်းခြောက်တွေကို ပန်းအနွမ်းတွေကို ရှုပ်ရှုပ်ထွေးထွေး ဖြစ်မနေရအောင် တံမြက်စည်းလှည်းသလို လေတစ်မျိုးက တိုက်လွှင့်ပေးလိုက်သတဲ့၊ အဲဒီလေကို သမ္မဇ္ဇနလေလို့ ခေါ်တယ်၊ တံမြက်စည်းလှည်းကျင်းပေးတဲ့ လေပေါ့"

"အဲလို တံမြက်စည်းလှဲတဲ့လေက ပန်းခြောက် ပန်းဟောင်း ပန်းနွမ်းတွေကို တိုက်ယူသွားတဲ့အခါ မညီမညွတ်ဖြစ်နေတဲ့ ကျင်းတို့ ချိုင့်တို့ဖြစ်ရင်လဲ၊ ဖြစ်နေမယ်ဆိုရင်လဲ၊ ဘာလဲတို့မှာရှိတဲ့ ငွေသောင်ယံက သဲဖြူလွလွလေးတွေကို သဥစဏ လေက တိုက်ယူလာပြီး ဖြည့်လိုက်သတဲ့၊ အဲဒီလိုဖြည့်ပြီးတာနဲ့ အခုန ညီအောင် ပန်းမွေ့ရာခင်းပေးတဲ့ လေကပဲ ပုလဲအဆင်းရောင်၊ ငွေအဆင်းရောင်ရှိတဲ့ သဲပွင့်တွေကို ညီနေအောင် ညှိပေးပြန်ရော"

"အဲလို ညှိပြီးသော ညချမ်းအခါ သဲပွင့်တွေ မလွင့်မပါရအောင် အနော်တတ္တအိုင်က ရေကို လေပွေက စုပ်ယူလာပြီး သွန်းဖျန်းပေးလိုက်ပြန်ရောတဲ့"

"ဒါနဲ့ပဲ အဲလိုပြီးတော့ ညချမ်းအခါ အရှင်တို့ ကျိန်းစက်တော့မည်ဆိုရင်လဲ မကောင်းတဲ့ အနံ့အသက်တွေရှိမယ်ဆိုရင် ထို အနံ့အသက်ဆိုးများ အရှင်တို့အပါးမှာမရှိအောင် အဝေးကို ထုတ်ဆောင်ပေးပြီး တောင်စဉ် တောင်တန်းတွေမှာရှိတဲ့ အလွန်မွှေးကြိုင်တဲ့ ရနံ့ကောင်းတာမှန်သမျှကို သုဂန္ဓလေက တိုက်ယူလာတယ်၊ တိုက်ပြန်တော့လဲ တရမန်းကြမ်းကြီး တဟူးဟူးနဲ့နေအောင် တိုက်တာမဟုတ်ဘူး၊ ဖြည်းဖြည်း ညင်ညင်သာသာလေး၊ အေးအေးလေး သုတ်ဖြူးပေးတာတဲ့"

"ဒါဟာ တစ်နေ့တစ်ရက်မဟုတ်ဘူး၊ နေ့စဉ်နဲ့အမျှတဲ့ အဲလို ဖြစ်ရတာကလဲ သိကြား၊ ဗြဟ္မာ၊ နတ်များတို့ရဲ့ တန်ခိုးဣဒ္ဓိပါဒ်နဲ့ လုပ်တာ မဟုတ်ဘူး"

"ပစ္စေကဗုဒ္ဓါ အရှင်မြတ်တို့ရဲ့ တန်ခိုးဂုဏ်မြတ်ကြောင့် သူ့ဟာသူ အလိုလို သဘာဝက ဖြစ်ပေးနေတာတဲ့"

"မှန်ပါ့ ဘုရား"

"တစ်ခါ ရှိသေးတယ်၊ ပစ္စေကဗုဒ္ဓါတွေဆိုတာ တစ်ပါးတစ်လေမျှ၊ သုံးလေးပါးမျှ ရှိတာမဟုတ်ဘူး၊ သောင်းနဲ့သိန်းနဲ့ ချီပြီး ရှိနေရင်ရှိတာ၊ ဘယ်လိုလုပ် အကန့်အသတ်နဲ့ ရှိနေတာမှ မဟုတ်တာ"

"ဒီတော့ နန္ဒမူလိုဏ်ဂူ သုံးဂူမှာ စံပယ်တဲ့အခါ ဘယ်လောက်များများ၊ ကျဉ်းကျဉ်းကြပ်ကြပ် စံပယ်ရတယ်လို့ကို မရှိဘူးတဲ့။ အခု တို့အနေနဲ့ ဘုရားတန်ဆောင်းတို့၊ ဂန္ဓကုဋိတိုက်တို့ အတွင်းက ဗုဒ္ဓရုပ်ပွားတော်တွေဟာ သူ့ပလ္လင်နဲ့ သူ့တံကဲနဲ့ ကိုယ်စီကိုယ်စီ သီတင်းသုံးနေသလိုပဲတဲ့"

"ဟိုက နန္ဒမူလိုဏ်ဂူထဲမှာလဲ ကိုယ့်ခုတင် ညောင်စောင်းနဲ့ကိုယ်၊ တသီးတခြားစီ ကျယ်ကျယ်ဝန်းဝန်း စံမြန်းကြရတာ"

"အဲ အသစ်ရောက်လာတဲ့ ပစ္စေကဗုဒ္ဓါ တစ်ပါးပဲဖြစ်ဖြစ်၊ လေးငါးပါးပဲဖြစ်ဖြစ်၊ ရောက်လာတဲ့အခါ အရှင်တို့ စည်းဝေး မြဲဖြစ်တဲ့ မဉ္ဇူသကနတ်ပန်းပင်ကြီးမှာ စည်းဝေးပေးကြရတယ်၊ သမာပတ်တစ်ခုခုကိုလဲ ဝင်စားရတယ်၊ သမာပတ်က ထပြီဆိုရင် သံဃာတော်ဖြစ်တဲ့ ပစ္စေကဗုဒ္ဓါမထေရ်မြတ်ကြီးက အသစ်ရောက် လာတဲ့ ပစ္စေကဗုဒ္ဓါအား မေးမြန်းတယ်၊ မေးပုံက-

"အရှင်ဘုရား ဘယ်ကမ္မဋ္ဌာန်းကို ပြီးဖြည့်ခဲ့လို့ အခုလို ပစ္စေကဗုဒ္ဓါ ဖြစ်လာသလဲဘုရား" လို့တဲ့။

"ဒီတော့ အမေးခံရတဲ့ ပစ္စေကဗုဒ္ဓါကလဲ အမိဝမ်းထဲ ပဋိသန္ဓေနေရတဲ့ ဇာတိဒုက္ခ၊ အိုရတဲ့ ဇရာဒုက္ခ၊ နာရတဲ့ ဗျာဓိဒုက္ခ၊ သေရတဲ့ မရဏဒုက္ခ။ တစ်ခါ ကာယဂတာသတိခေါ် ဒွတ္တိံသကောဋ္ဌာသထဲက တစ်ပါးပါးကိုပဲဖြစ်ဖြစ် အနိစ္စသညာ၊ ဒုက္ခသညာ၊ အနတ္တသညာဆိုတာကိုပဲ ဖြစ်ဖြစ်၊ အထပ်ထပ် အခါခါ ကိုယ်ဆင်ခြင်ခဲ့တဲ့ ကမ္မဋ္ဌာန်းများကို အသီးသီး လျှောက်ဆိုရတယ်တဲ့"

"ပေါက်ကျော် ဒါက တို့စာထဲမှာ ကျမ်းထဲမှာဆိုတဲ့ စကားတွေပါ"

"မှန်ပါ အရှင်ဘုရား"

"အခု တို့ ဆရာစဉ်ဆက်ကပြောလို့ မှတ်လာတာလေးကို ဗဟုသုတအဖြစ် ပြောရဦးမယ်နော်"

"မှန်ပါ ဘုရား"

"တို့ပုဂံမှာပဲပေါ့၊ ကျန်စစ်သားမင်းကြီး နန်းစံတဲ့အခါကတဲ့၊ ရဟန္တာဖြစ်တဲ့ အရှင်အရဟံမထေရ်ကို လျှောက်ထားသတဲ့၊ မင်းကြီးက အရှင်ဘုရား ဟိမဝန္တာ ဂန္ဓမာဒနတောင်မင်းဟာ နန္ဒမူလိုဏ်ဂူနဲ့တကွ အလွန်ရှုချင့်စဖွယ် တင့်တယ်သတဲ့၊ မဥ္ဇူသက ပန်းပင်ကလဲ အဆန်းတကြယ် အဖူးအပွင့်တွေနဲ့ အခါ ခပ်သိမ်း မပြတ်မလပ် ပွင့်သတဲ့၊ အဲဒါတွေကို ကြားဖူးပါတယ်၊ အရှင်ကတော့ ဈာန်သမာပတ်လဲရတာမို့ သမာပတ်အစွမ်းနဲ့ ကိုယ်တော်တိုင်လဲ ရှုဖူးတာမို့ ဂန္ဓမာဒနတောင်ရဲ့ တင့်တယ်ပုံများကို ဒကာ တော်သိမြင်တော်မူချင်ပါတယ်။

"ဒီတော့ တပည့်တော်အား သနားသောအားဖြင့် ဂန္ဓမာဒနတောင်၊ နန္ဒမူလိုဏ်ဂူများကို တန်ခိုးနဲ့ဖန်ဆင်းပြီး ပြတော်မူပါဘုရားလို့ လျှောက်သတဲ့"

"ဒီတော့ ရှင်အရဟံက အေး... ဒကာတစ်ယောက်တည်းပဲဆိုရင်တော့ ပြရမှာပေါ့၊ အများပြည်သူတွေအတွက်ဆိုရင်တော့ မပြနိုင်ဘူးလို့ မိန့်သတဲ့"

"ကျန်စစ်သားမင်းကြီးက ကောင်းလှပါပြီဘုရား၊ တပည့်တော်လဲ အခု မကြည့်နိုင်သေးပါ၊ တပည့်တော် ကြည့်လိုတဲ့နေ့မှာ အရှင်အား လာလျှောက်ပါ့မယ်လို့ ပြန်လျှောက် သတဲ့"

"ဒါနဲ့ ရှင်အရဟံကလဲ မင်းကြီးရဲ့နန်းတော်က ပြန်ကြွသွားတယ်၊ အရှင်လဲပြန်ရော မင်းကြီးက နေပြည်တော်က ပန်းချီဆရာတွေကိုခေါ်ပြီး..."

"ဟော... ရှင်အရဟံမထေရ်မြတ်က ငါ့ကို ဂန္ဓမာဒနတောင် နန္ဒမူလိုဏ်ဂူတို့ကို ပြလိမ့်မယ်၊ ဒီအခါ မောင်မင်းတို့က တင်းတိမ်ကန့်လန့်ကာအတွင်းကနေ နေထားတကျ အသီးအသီး ပုံစံစနစ်များကို မကြွင်းမကျန် ရေးသားကြရမယ်လို့ မိန့်သတဲ့"

"ဒါနဲ့ပဲ ပန်းချီဆရာတွေလဲ ကန့်လန့်ကာအတွင်းကနေ အရန်သင့်စောင့်နေတဲ့အခါ ရှင်အရဟံ ကြွလာခိုက်မှာ မင်းကြီးက တပည့်တော် ယနေ့ပဲ ကြည့်လိုပါတယ်ဘုရားလို့ လျှောက်ရော"

"လျှောက်တော့ အရှင်မြတ်က ဂန္ဓမာဒနတောင်ရှိ နန္ဒမူလိုဏ်ဂူပုံများကို တန်ခိုးတော်နဲ့ပြသတဲ့၊ ဒီအခါ ပန်းချီဆရာတွေ

က ကိုယ်စီကိုယ်စီ အသီးအသီး ပုံစံစနစ်များကို မကြွင်းမကျန်ရအောင် ချက်ချင်းပဲ အပြီးရေးကူးလိုက်ကြရော၊ အရှင်လဲ ကျောင်းပြန်ရော ပန်းချီဆရာတွေက သူတို့ရေးဆွဲထားတဲ့ ပုံစံတွေကို မင်းကြီးအား ပြကြတယ်"

"မင်းကြီးက ပန်းချီရေးဆွဲထားတဲ့ ပုံစံတွေကို တစ်ဦးရေးတဲ့ပုံစံနဲ့ အခြားတစ်ဦးရေးတဲ့ပုံစံကို စပ်ဟပ်ကြည့်တဲ့အခါ အရှင်မြတ် တန်ခိုးနဲ့ပြတဲ့ ပုံစံအတိုင်း ချွတ်စွပ်တူနေတာကို တွေ့ရတယ်။

မင်းကြီး ဝမ်းမြောက်တော်မူလွန်းလို့ ပန်းချီဆရာတွေကို ရွှေငွေပစ္စည်း အထည်အလိပ် စတဲ့ ဆုတော် လာဘ်တော်များကို ချီးမြှင့်ပြီး အများသူငါ အရှည်သဖြင့် ရှုနိုင်ရန် အာနန္ဒာစေတီမြတ်ကြီးကို ဂန္ဓမာဒနတောင် နန္ဒမူလိုဏ်ဂူပုံစံအတိုင်း တည်ထားတာတဲ့။

ဒါကြောင့် ကိုပေါက်ကျော်ရေ ဂန္ဓမာဒနတောင် နန္ဒမူလိုဏ်ဂူကြည့်ချင်ရင် ပုဂံပဲကြွပေတော့။

သာဓု... သာဓု... သာဓုပါ ဘုရား။

* * *

## ဥပုသ်သည် ဖတ်စရာ

## (၃)

"ပေါက်ကျော်"

"အရှင်ဘုရား"

"တို့ ဥပုသ်အကြောင်းလေးလဲ ဆွေးနွေးဦးမှကွ"

"မှန်ပါ့"

"ဘာကြောင့် ဥပေါသထ-ဥပုသ်လို့ ခေါ်သလဲ သိလား"

"အမိန့်ရှိမှ သိရမှာပါဘုရား"

"အေးကွာ တို့သီလက္ခန်သာမည ဖလသုတ်က ဆိုထားတာက ဥပုသ်ဆိုတာတဲ့ အချုပ်ကတော့ ဘုရား၊ တရား၊ သံဃာ

ဆိုတဲ့ ရတနာသုံးပါးကို ဆည်းကပ်ကိုးကွယ် နေထိုင်တတ်သော ကြောင့် ဥပေါသထ-ဥပုသ်စောင့်သုံးခြင်းလို့ခေါ်တာတဲ့”

“မှန်ပါ”

“နောက် ကျမ်းဂန်တွေက ဆိုထားတာရှိသေးတယ်၊ လူသားတို့အတွက် အခု ပစ္စုပ္ပန်မှာရော၊ နောင်တမလွန်အတွက်ပါ လိုအပ်တဲ့ အကျိုးပြုမှုဆိုတာ သီလမှတစ်ပါး အခြားမရှိဘူးတဲ့။ သီလနဲ့ တူတဲ့ ကိုးကွယ်လဲလျောင်း ပုန်းအောင်းရာလည်း မရှိဘူးတဲ့။ သီလနဲ့တူတဲ့ သုဂတိဘဝသို့ လားရောက်ရာလည်း မရှိဘူးတဲ့။ သီလနဲ့တူတဲ့ ပန်းလည်းမရှိဘူးတဲ့၊ သီလနဲ့တူတဲ့ မွှေးကြိုင်တဲ့အနံ့ အမွှေးအထုံလည်း မရှိဘူးတဲ့။

“ဒါကြောင့်မို့ ကိုပေါက်ကျော်ရေ အခုလို အဋ္ဌကထာ ဆရာကြီးတွေ အမိန့်ရှိတာတွေကို နှလုံးသွင်းပြီးတော့ အခုလို သာသနာတွင်းကာလလေးမှာ လူ့ဘဝရောက်ခိုက်၊ ကိုယ့်ခန္ဓာ ကိုယ်ကို သီလနဲ့ တန်ဆာဆင်စမ်းပါ၊ သီလပန်းကို ပန်စမ်းပါ၊ သီလဆိုတဲ့ အမွှေးနံ့သာတွေ လိမ်းကြစမ်းပါလို့နော်”

“မှန်ပါ”

“အဲလိုများ သီလနဲ့ ကိုယ့်ခန္ဓာကိုယ်ကို ထွေးပတ်နှောင်ဖွဲ့ထားရင် ဒီလိုပုဂ္ဂိုလ်ကို တစ်လောကလုံးက ကြည့်လို့ရှုလို့ တင့်တယ်အားရတယ်လို့ကို မရှိဘူးတဲ့ဗျာ”

## ဥပုသ်အမျိုးမျိုး

ဥပုသ်ဆိုတာ လဆန်း လဆုတ် (၈) ရက်မြောက်နေ့၌ စောင့်သုံးတဲ့ အဋ္ဌမိဥပုသ်ရယ်၊ (၁၄) ရက်မြောက်သောနေ့၌ စောင့်သုံးကြတဲ့ စာတုဒ္ဒသီ ဥပုသ်၊ (၁၅) ရက်မြောက်နေ့၌စောင့်တဲ့ ပန္နရသီဥပုသ်ရယ်လို့ သုံးမျိုးရှိတယ်။

ဒါ့ပြင် ပထမသင်္ဂါယနာတင်စဉ်က မထေရ်တွေ သတ်မှတ်ခဲ့တဲ့ (၅) ရက်မြောက်နေ့၌ စောင့်သုံးတဲ့ ပဥ္စမီဥပုသ်ဆိုတာလဲ ရှိသေးတယ်။

သည်တော့ လဆန်း (၁၅)ရက်မှာဆိုရင် ပဥ္စမီ၊ အဋ္ဌမီ၊ စာတုဒ္ဒသီ၊ ပန္နရသီနဲ့ လေးဥပုသ်၊ တစ်ခါ လဆုတ်၌လည်း လေးဥပုသ်။ သည်တော့ တစ်လမှာ (၈)ရက်၊ (၈)သီတင်းစောင့်နိုင်ကြတယ်။ တစ်ခါရှိသေးတယ်။ ပဋိဇာဂရ ဥပုသ်တဲ့။ အခုန တစ်လမယ် (၈)ဥပုသ်ရှိမဟုတ်။

"မှန်ပါ"

အဲဒီ (၈) ဥပုသ်စလုံးမှာ ကြိုစောင့်ရတယ်။

ဥပမာကွာ- (၅)ရက်နေ့စောင့်တဲ့ ပဥ္စမီဥပုသ်မဟုတ်လား၊ အဲဒီ (၅)ရက် မရောက်ခင် (၄) ရက်နေ့က တစ်ခါစောင့်တယ်၊ ဒါ ကြိုစောင့်လို့ အကြိုဥပုသ်ပေါ့၊ တစ်ခါ (၅)ရက်နေ့

မှာ စောင့်တယ်၊ ဒါကတော့ ပဋ္ဌမီ ဥပုသ်ပေါ့၊ အဲဒီ ပဋ္ဌမီ(၅) ရက်နေ့စောင့်ပြီး (၆)ရက်နေ့ကျရင် စောင့်ပြန်ရော၊ ဒါက (၅) ရက် ဥပုသ်နေ့ကိုကျော်သွား၊ ပိုသွားလို့ အပိုဥပုသ်လို့ခေါ်တယ် ကွ၊ ကျန်တဲ့ဥပုသ်နေ့တွေမှာလဲ အကြို၊ အပို အဲလိုပဲပေါ့။

"ဒီတော့ ပဋိဇာဂရ ဥပုသ်ဆိုတာက-

**ပုညံ ကရောန္တာ ဟိ သတ္တာ ဓာဂေရာန္တိနာမ၊ ကာတဗ္ဗကိစ္စ ပသုတတ္တာ** တဲ့။

ကုသိုလ်ကောင်းမှုပြုကုန်သော သူတော်ကောင်းတို့သည် ပြုသင့်ပြုထိုက်သောကိစ္စကို လေ့ကျင့် ဆောင်ရွက်တာကြောင့် နိုးကြားကြတယ်လို့ ပြောတာ။ (အင်္ဂုတ္တိုရ်ဋီကာ-ဒု-တွဲ၊နှာ -၁၁၇)

တစ်ခါရှိသေးတယ်၊ ပါဋိဟာရိယ ဥပုသ်ဆိုတာ၊ ဒါက အမြဲ စောင့်သုံးအပ်တဲ့ ဥပုသ်မျိုးပဲ၊ ဒီတော့ ဒီစကားတွေ ချုပ် ကြည့်ရင် ကိုယ့်ခေတ်မှာ ကိုယ့်ယုံကြည်ချက် သဒ္ဓါတရားပေါ်မူ တည်ပြီး ဆက်နေရာ ဘယ်နှစ်ရက်မဆို ဥပုသ်စောင့်သုံး ဆောက် တည်နိုင်ပါတယ်တဲ့။

ဥပုသ်စောင့်တဲ့အခါ နံနက်မှာ ဘုရားရှင်၏ကိုယ်တော် စား ရုပ်ပွားဆင်းတုထံမှာဖြစ်စေ၊ ရဟန်းသံဃာထံမှာဖြစ်စေ၊ ဆယ်ပါးသီလတရားများကို သိရှိနားလည်တဲ့ ယောကျ်ား၊ မိန်းမ

တို့ထံ၌ဖြစ်စေ၊ ကိုယ့်ဘာသာကိုယ်ပဲဖြစ်စေ နှုတ်ကဆိုပြီး ဆောက်တည်ရမည်တဲ့။

ဗုဒ္ဓပညတ္တံ ဥပေါသထံ အဓိဋ္ဌာမိ။

ဘုရားဟောတော်မူအပ်သော ဥပုသ်သီလကို ငါသည် ဆောက်တည်ပါ၏လို့ နှုတ်မြွက်ဆို ဆောက်တည်ရင်လဲ ရတာပဲ။ ဒါကို ၈-ပါးသီလ အတိုချုပ် ဆောက်တည်တယ်လို့ ခေါ်တယ်။

အဲဒါ ၈-ပါးစလုံးကို တစ်ပေါင်းတည်း ဆောက်တည်ထားတာမို့ တစ်ပါးပျက်ရင် အကုန်လုံးပျက်ရော။

တို့ပါဏာတိပါတ ဝေရမဏိသိက္ခာပဒံ သမာဒိယာမိ-စသဖြင့် ၈-ပါးလုံးဆိုတာက တစ်ခုပျက်ရင် ၇-ခုကျန်သေးတယ်၊ နှစ်ခုပျက်ရင် ၆-ခုကျန်သေးတယ်၊ ဒါက တစ်ပါးစီဆိုပြီး ဆောက်တည်ထားလို့ပေါ့။

ပါဠိလို မရရင်လဲ ဗမာလိုဆိုလဲ ရတာပါပဲ၊ ပါဠိလိုဆိုတာက ပရိသမ္ဘိဒာဉာဏ်လေးပါးရခြင်းရဲ့အကြောင်း ဖြစ်တယ်လို့ ကျမ်းကဆိုတယ်။ ပဋိသမ္ဘိဒါ လေးပါးဆိုတာက (၁) အတ္ထပဋိသမ္ဘိဒါ၊ (၂) ဓမ္မပဋိသမ္ဘိဒါ၊ (၃) နိရုတ္တိပဋိသမ္ဘိဒါ၊ (၄) ပဋိဘာန ပဋိသမ္ဘိဒါလို့ လေးမျိုးရှိတယ်။

## ရှစ်ပါးသီလစောင့်တည်ရကျိုး

အရင်က ဗန္ဓုမဟိပြည်မှာ မင်းရော ပြည်သူများတွေရော ပေါ့ ဥပုသ်စောင့်ကြတယ်တဲ့။

ဒါကို အမျိုးသမီးလေးက မြင်တယ်။ သူမက ဆင်းရဲတယ်၊ ရေရောင်းမှ စားရရှာတာ၊ တစ်နေ့ သူက သွားနေတဲ့ လူအုပ်ကြီးကို မြင်လိုက်တယ်။ အို ... ကြည့်စမ်း လူအုပ်ကြီးမှာ အုံးအုံးထနေတာပဲ၊ ဘုရင်ကြီးလည်းပါရဲ့၊ မှူးကြီးမတ်ကြီးတွေလဲ ပါရဲ၊ ဥပုသ်စောင့်သွားကြတာတဲ့၊ ဒါဟာ အကျိုးရှိလို့နေမှာ။ အဲသလိုကြံပြီး ငါလည်း လိုက်သွားဦးမှဆိုပြီး ဥပုသ်စောင့် လိုက်သွားသတဲ့။ အဲဒါဒီတစ်ခါပဲ ရှစ်ပါးသီလကို စောင့်ဖူးတာ။

အဲဒါရှစ်ပါးသီလကုသိုလ်စေတနာကြောင့် လူ့ပြည်နတ်ပြည် အဖန်ဖန်ဖြစ်ပြီးမှ အခု တို့ဘုရားလက်ထက်တော်မှာ ခုနစ်နှစ်အရွယ်ကပဲ ကျေပေါ်သထိကာ ဘိက္ခုနီရဟန္တာမရယ်လို့ ထင်ရှားတယ်။

တစ်ခါရှိသေးတယ် သူကတော့ တစ်ကြိမ်တောင် အပြည့်အဝမဟုတ်ဘူး၊ နေ့ထက်ဝက်ပဲ။ သူက အနာထပိဏ်ရဲ့ အလုပ်သမားဘတက။ သူက နံနက်စောစော တောထဲသွားပြီး အလုပ်လုပ်၊ မိုးချုပ်မှ ပြန်လာတာ၊ အိမ်ရောက်လို့ ထမင်းစားမယ် လုပ်တော့ သူတစ်ယောက်တည်းတဲ့။ ဒီနေ့ ထမင်းချက်က သူ့

တစ်ယောက်စာပဲ ချက်ထားတယ်။ သူ့ပဲ ရှုးခပ်ကျွေးရော။ ဒီတော့ ဘာတာက က မေးတယ်။

"ဟော့ ဘယ်လိုဖြစ်တာလဲ၊ ခါတိုင်းဆို ထမင်းစားကြတာ ညံ့နေတာ၊ တစ်အုပ်တစ်မကြီးရယ်။ အခုဟာ ငါတစ်ယောက်တည်းလား"

"အင်း တော်ကလဲ မသိဘူးလား၊ ဒီနေ့က ဥပုသ်နေ့ကြီးဟာ၊ ဒီတော့ သူဌေးကြီးက သူကိုယ်တိုင်ရော၊ အိမ်သူအိမ်သားတွေရော၊ အလုပ်သမားတွေရောကို ဥပုသ်စောင့်စောင့်ခိုင်းတာ၊ အယုတ်အားဖြင့် ကလေးငယ်လေးဆိုရင် နို့တောင်မစို့ရဘူး၊ စတုမဓုရကို ခွံ့ကျွေးရတာ။

"အဲဒါ ရှင့်ကိုတော့ မပြောမိဘူး၊ ကျန်တဲ့ လူတွေကိုတော့ ဥပုသ်နေ့မှန်း ပြောမိပါတယ်"

"ဒါဆိုရင် အခုထမင်းမစားဘဲ ဥပုသ်စောင့်လို့ ရဦးမလား"

"ဒီတော့ ထမင်းချက်က ကျုပ်တော့မသိဘူး၊ နေဦး သူဌေးကြီး မေးကြည့်ဦးမယ်ဆိုပြီး ပြေးမိတယ်၊ ဒီတော့ အနာထပိဏ်က...

"ဟော့ မစားရသေးရင် နေ့ထက်ဝက် ဥပုသ်ရသေးတယ်၊

ပါးစပ်ကို စင်အောင်ဆေး စောင့်လေ”

“ဒီတော့ အစခံက ဘတကကို ပြန်ပြီးပြောရော၊ ပြော တော့ ဘတက,က စောင့်တာပေါ့၊ နို့ပေမယ့် တစ်မနက်လုံးလဲ အစာက မစားရသေး၊ အခုညနေလဲ မစားဆိုတော့ လေနာရောဂါ ကြီးဖြစ်ရော၊ အပြင်းအထန်ရယ်၊ တစ်ကိုယ်လုံးကို ကြိုးတွေနဲ့ ပတ်ထားရတယ်၊ သူဌေးကြီး ပြေးပြောကြပေါ့။ သူဌေးကြီးကိုယ် တိုင်လာပြီး …

“ဟဲ့ မင်းရောဂါပျောက်အောင် စတုမဓူစားကွာ”

“အရှင်ရယ် မစားပါရစေနဲ့၊ သူများက တစ်နေ့လုံးရ တာ၊ ကျွန်တော်က နေ့တစ်ဝက်ကလေးရတာ မစားလိုပါဘူး တဲ့”

“ပေါက်ကျော်တို့နဲ့များ ကွာပ့်”

“အောင်မာ ဖိုးအုန်းမြက ကျုပ်များ ဒီလောက် အထင် သေးရသလား၊ ဒီမလာခင်ကလေးတွင် ကျုပ်မိန်းမက ထန်းလျက် လေး စားသွားဆိုတာတောင် လှည့်ကြည့်တာ မဟုတ်ဘူး”

“မစားချင်လို့လား”

“မဟုတ်ဘူး နည်းလို့”

"အဲဒါ ဘယ်လိုမှပြောမရလို့ မိုးမလင်းဘူး သေဆုံးသွားတယ်"

"သေတော့ အလွန်ကြီးကျယ်ခမ်းနားတဲ့ ညောင်ပင်ကြီးတစ်ပင်၌ တန်ခိုးကြီးပါဒ်ကြီးမြတ်တဲ့ ရုက္ခစိုးနတ်မင်းဖြစ်တယ်။

"ဒီအခါ ဟိမဝန္တာမှကြွလာတဲ့ ရသေ့ငါးရာတို့က အဆိုပါ ညောင်ပင်ရင်းမှာ ခေတ္တနားနေကြတယ်၊ ဒီတွင် အကြီးဆုံးရသေ့ကြီးက –

"ဒီညောင်ပင်ကြီးက ပင်စည်လုံးပတ်စသည် အလွန်ကြီးကျယ်တယ်၊ ဒီမှာစောင့်တဲ့ ရုက္ခစိုးနတ်က တန်ခိုးကြီးပါဒ်နဲ့ ပြည့်စုံမှာပဲ၊ ထိုနတ်က တို့ကိုများ သောက်ရေပေးပါက ကောင်းလေစွလို့ တောင့်တလိုက်ရော ညောင်ပင်ကြီးရဲ့ ခွကြားကနေ သောက်ရေတွေကျလာသတဲ့"

"အရှင် ဘုရား အံ့စရာနော်"

"အေး ဒါပေမယ့် သီလရှင်တွေကိုး"

တစ်ခါ ချိုးရေ ရရင်ကောင်းမှာပဲဟု တောင့်တရာ ချိုးလောက်အောင် ရေတွေကျလာတယ်။ တို့ စားလောက်အောင်

သစ်သီးများကို ရရှိပါက ကောင်းလေစွဟု တောင့်တရာ သစ်သီးတွေ ရတယ်။

ဒီတော့ ရသေ့ကြီးက ...

"အို နတ်မင်း၊ သင်ရဲ့ တန်းခိုးကြွယ်ပါဒ် ပြည့်စုံကြောင်းကို သိရပါပြီ၊ တို့ကို ကိုယ်ထင်ပြပါဦးလို့ တောင်းပန်ရာ နတ်က အဆင်းအင်္ဂါ ပြည့်စုံစွာနဲ့ ပြသတဲ့။

"ဒီတော့ အရှင်နတ် အခုလောက် သူတစ်ပါးအလိုရှိတိုင်း ပြည့်စုံအောင် ပေးနိုင်တာက ဘာကုသိုလ်ကြောင့်လဲ မေးရာ-

"ဒီတော့မှ နေ့တစ်ဝက်မျှ ဥပုသ်စောင့်ဖူးခဲ့ရတဲ့ ကုသိုလ်ကြောင့် ဖြစ်ကြောင်း ပြောပြတယ်။

"နောက်ရှိသေးတယ်၊ ပေါက်ဈေး၊ အနာထပိဏ် သူဌေးကြီးက သူ့သားကလကို ဥပုသ်စောင့်ခိုင်းတယ်၊ မင်းတစ်ကြိမ် ဥပုသ်စောင့်ရင် ငွေတစ်ရာ၊ တစ်ရာပေးမယ်ပေါ့၊ ဒီတော့ သူ့သား ကာဠက ဇေတဝန်ကိုသွား တော်ရာမှအိပ်စက်ပြီး ပြန်လာတယ်၊ ငွေတစ်ရာလဲရတယ်၊ ဒါကို သူဌေးကြီးက ရိပ်စားမိတော့ ပရိယာယ်ပြောင်းခိုင်းပြန်တယ်။ ကာဠမင်း ဗုဒ္ဓအထံမှ တရားနာပြီး မှတ်မိရင် အသပြာတစ်ထောင်၊ တစ်ထောင်ပေးမယ်လို့ ပြောပြန်တယ်။

"ဒီတော့ ကာဠက ငွေတစ်ထောင်ရမှာဆိုတော့ တရားသွားနာတယ်၊ မှတ်တယ်၊ နောက် တရားသဘော ပေါက်သွားတော့ သောတာပန်တည်သွားရောတဲ့ကွ"

"တို့ ဘုရားရှင်က ဥပုသ်စောင့်တာကို လေးလေးစားစား အားပေး ချီးမြှောက်တာကွ၊ ဥပုသ်ရဲ့ အကျိုးကြီးပုံကိုလဲ ဟောတယ်၊ ဥပုသ်စောင့်ဖို့လဲ တိုက်တွန်းတာပဲ၊ တစ်ခါကလဲ ဗုဒ္ဓဟာ ဝေသာလီပြည်က မဟာဝုန်တောထဲက ပြာသဒ်ကျောင်းမှာ သီတင်းသုံးနေတယ်၊ ဒီတုန်းက ဝါသေဋ္ဌဆိုတဲ့ ဒကာတစ်ယောက်က ဗုဒ္ဓအထံသွားတယ်၊ ဒီတော့ ဗုဒ္ဓက ...

"အို ဝါသေဋ္ဌ၊ အင်္ဂါရှစ်ပါးနဲ့ပြည့်စုံတဲ့ စောင့်သုံးအပ်တဲ့ ဥပုသ်ဟာ အကျိုးအာနိသင်ကြီးတယ်၊ တန်ခိုးကြီးမြတ်လှတယ်"

"မှန်ပါတယ် ဗုဒ္ဓ၊ ဒီလောကကြီးမှာ ဆွေမျိုးသားချင်းတွေပဲ ဖြစ်ဖြစ်၊ ခပ်သိမ်းကုန်သော မင်း၊ ပုဏ္ဏား၊ ကုန်သည်၊ ဆင်းရဲသားတို့ပဲ ဖြစ်ဖြစ် ရှစ်ပါးသီလဥပုသ်ကိုသာ စောင့်ကြမယ်ဆိုလျှင် ရှည်မြင့်စွာသော နေ့ညဉ့်ပတ်လုံး စီးပွားချမ်းသာ ဖြစ်ကြရပါလိမ့်မယ် ဘုရား'

"ဝါသေဋ္ဌ၊ သင်ပြောတာ အမှန်ပဲ၊ ဝါသေဋ္ဌရယ်၊ သက်ရှိတွေချည်းပဲ မပြောနဲ့၊ ဟောဒီ အင်ကြင်းပင်ကြီးတွေ

တောင် အကယ်၍ (စိတ်စေတနာရှိမယ်လို့ အင်္ဂါရှစ်ပါးနဲ့ ပြည့်စုံတဲ့ဥပုသ်ကို စောင့်ကာ သူတို့လဲ ရှည်မြင့်စွာသော နေသည့် ပတ်လုံးကြီးပွား ချမ်းသာကြမှာ အမှန်ပဲ ဝါသေဋ္ဌ"

"အဲလို ပေါက်ကျော်ရေ အင္ဒုဂုံတ္တရပါဠိတော်မှာ ဟော ထားတာကွ"

"အဲ တစ်ခုရှိသေးတယ်၊ ဥပုသ်နေ့မှာ ဥပုသ်မစောင့် ရင်လဲ ဆုံးရှုံးလေးစွ၊ ရအပ်တဲ့အကျိုးကို မရလေစွ၊ အရမတော် လေစွ"

လို့ ဗုဒ္ဓက ကဲ့ရဲ့တော်မူတာ။ အဲ နောက်ရှိသေးတယ်၊ ဆိုထားတာ ဗုဒ္ဓက သက္ကတိုင်း ကပိလဝတ်ပြည်က နိဂြောဓာရုံ ကျောင်းမှာ သီတင်းသုံးနေတယ်ကွ၊ ဒီတုန်းကလဲ ဗုဒ္ဓက သက္က တိုင်းသား ဒကာတွေကို မေးဖူးတယ်။

"ဘယ်လိုလဲ သက္ကတိုင်းသား ဒကာတို့၊ သင်တို့ ဥပုသ် နေ့မှာ ဥပုသ်စောင့်ကြရဲ့လား" လို့ မေးတာ။

အဲသလို မေးတော့ သက္ကတိုင်းသား ဥပါသကာတွေက-

"ဗုဒ္ဓဘုရား တပည့်တော်တို့ဟာ တစ်ခါတလေတော့လဲ ဥပုသ်စောင့်ကြပါတယ်၊ တစ်ခါတလေကျတော့လဲ ဥပုသ်မစောင့် မိကြပါ ဘုရား"

လို့ လျှောက်ထားကြတယ်၊ ဒီတော့ ဗုဒ္ဓက ဘယ်လို အမိန့်ရှိသလဲ မှတ်လဲ''

''အမိန့်ရှိပါ အရှင်ဘုရား''

''ဗုဒ္ဓ အမိန့်ရှိတာက-

''အဲ သက္ကတိုင်းသား ဥပါသကာတို့ရယ်၊ သင်တို့ အသက်ရှင်နေရပေမယ့် စိုးရိမ်ခြင်းဆိုတဲ့ ဘေးရန်တွေ ရှိနေတယ်လေ၊ ဒါတင်မက သေရခြင်းဆိုတဲ့ ဘေးရန်လဲရှိနေလေရဲ့။

''ဒါနဲ့များတောင် တစ်ခါတစ်ရံစောင့်ပြီး တစ်ခါတစ်ရံ မစောင့်ဘူးဆိုတော့ သင်တို့အဖို့ အကျိုးမရလေစွာ၊ ဆုံးရှုံးလေစွာ၊ မကောင်းသဖြင့် ရလေစွာ၊ သင်တို့ဟာ အရမတော်လေစွာ''

လို့ အမိန့်ရှိလိုက်သတဲ့။

''အဲဒါကြောင့်မို့ မောင်ပေါက်ကျော်တို့၊ မောင်တင်ဝင်းတို့လဲ ဥပုသ်နေ့ရောက်တိုင်း မပျက်မကွက်ရအောင် ကြိုးစားပြီး ဥပုသ်စောင့်ကြပေတော့''

''မှန်လှပါ အရှင်ဘုရား''

''ပေါက်ကျော်''

''အရှင်ဘုရား''

"ဥပုသ်သီလဆိုတာ သာသနာနဲ့ကြုံတုန်း တွန်းလုပ်ရမှာ၊ မပျင်းရဘူးကွ၊ ဥပုသ်စောင့်လေ့ စောင့်ထရှိနေရင် မစောင့်ရ၊ မနေနိုင်အောင်ကို ဖြစ်ရော။

"အချို့ အယူတွေမှာလဲ ဥပုသ်စောင့်တာရှိပါတယ်၊ နို့ပေမယ့် သူတို့များ သိပ်ကိုဆင်းရဲကြရှာတယ်၊ ငြိုငြင်ပင်ပန်းကြရှာတယ်၊ အဲဒီ ဥပုသ်မျိုးတော့ တို့ဘုရားက မနှစ်သက်ဘူးကိုပေါက်ကျော်"

"မှန်ပါ အရှင်ဘုရား"

"အေး တို့ဘုရားကြိုက်တာက သံသရာဝဋ်မှ ထွက်မြောက်ကြောင်းဖြစ်တဲ့ အကျင့်မျိုးမှ နှစ်သက်တာ၊ ဒီတော့ ဝဋ်မှ ထွက်ရာထွက်ကြောင်း ဥပုသ်ကို တစ်လ တစ်လမယ် လေးသီတင်း၊ ရှစ်သီတင်း စသဖြင့်ပေါ့ စောင့်ရမှာနော်"

"မှန်ပါ၊ တပည့်တော်တို့လဲ အခု ဥပုသ်စောင့် ဝါသနာပါ ကြပါကုန်ပြီ ဘုရား"

"အေး... ကောင်းတယ်၊ နို့ပေမယ့် ကြိုကြားကြိုကြား မဖြစ်စေနဲ့၊ လစ်လပ်ခြင်းမရှိစေနဲ့၊ ကြိုးစားကြကွ၊ လူ့သက်တမ်းက တိုတိုလေးရယ်၊ ဟိုရွှေ့ဒီရွှေ့ မဖြစ်စေရဘူးနော်"

"မှန်ပါ အရှင်မြတ်"

"အဲ... မှန်မှန်ကန်ကန် ဥပုသ်စောင့်တာကို တို့ဘုရားက ဘာကြောင့် ကြိုက်နှစ်သလဲဆိုတော့...

"တို့လူတွေမှာ လူတန်းစားက နှစ်မျိုးပဲရှိတာ၊ ဟော... ကောင်းမှုပြုတဲ့ လူစားရယ်၊ အကုသိုလ်ဒုစရိုက်ပြုတဲ့ လူစားရယ် လို့ နှစ်မျိုးပဲ၊ ဒီလူတန်းစားနှစ်မျိုးကို အသေအချာ စာရင်းကောက် တာဟဲ့၊ စာရင်းကောက်ပြီး နတ်သဘင်အစည်းအဝေးမှာ တင်ပြ သတဲ့"

"ဒါဆို တပည့်တော်က ပေါက်ကျော်ထက် သာမယ် ဘုရား"

"နို့... မင်းက ဘာမို့လဲ မောင်တင်ဝင်းရ"

"ဘာဖြစ်လို့ဆို အရှင့်တပည့်က ဟိုအပတ်က တစ် ဥပုသ်ပျက်တယ်လေ"

"ဟ... ဒီတုန်းက ငါက ငါ့မိန်းမ နေမကောင်းလို့ပါ၊ အံမယ် ဒါတောင် ဆန်ပြုတ်အိုးမတည်ခင်လေးမှာ 'ဗုဒ္ဓ ပညတ္တံ ဥပေါသထသီလံ သမာဒိယာမိ' လို့ ဘုရားကျောင်းဆောင်ရှေ့မှာ ဆောက်တည်လိုက်သေးတယ်"

"ဒါဆို အဲဒီနေ့က မင်း ညစာ မစားဘူးပေါ့"

"အဲ... အဲ... ဆာလွန်းလို့ စားမိသွားတယ်"

"အဲဒါ မင့်ဥပုသ်ကျိုးရောပေါ့၊ ဒါကြောင့် ငါက သာပါတယ်ဆိုမှ"

"နို့ အရှင်ဘုရား၊ ဘယ်သူတွေက မှတ်တာလဲဘုရား၊ အမိန့်ရှိပါဦး ဘုရား"

"စတုလောကပါလလို့ခေါ်တဲ့ ဓတရဋ္ဌ၊ ဝိရူဠှက၊ ဝိရူပက္ခ၊ ကုဝေရ ဆိုတဲ့ နတ်မင်းကြီးလေးပေါ့ပေါ့၊ သူတို့ကို သိကြားမင်းကြီးက ခိုင်းထားတာ၊ ရွှေပုရပိုက်ရယ်၊ ခွေးသရေ ပုရပိုက်ရယ်လို့ ပုရပိုက်နှစ်မျိုး ပေးထားတယ်တဲ့။

"အဲဒါ ဥပုသ်သီတင်းနေ့တွေဆို လူ့ပြည်ကိုဆင်းလာပြီး ဘယ်သူကဖြင့် ဘယ်ဘုရားအတွင်းရှိ ဘယ်ဇရပ်၊ ဘယ်ကျောင်းမှာ ရှစ်ပါးသီလ၊ ၁၀ ပါးသီလ ဥပုသ်ကိုစောင့်တယ်လို့ မှတ်သားတယ်တဲ့ ကိုပေါက်ကျော်"

"မှန်ပါ... ရွှေပုရပိုက်ထဲမှာ ရေးမှာနေမှာ"

"အေး... ဟုတ်တယ်၊ မင်းရော တင်ဝင်းရော ပါသွားရောပေါ့"

"ဘဝဒ္ဒနှယ် ဖိုးတင်ဝင်း ပျော်စရာကြီးနော်"

"အဲ... အကုသိုလ် ဒုစရိုက်လုပ်တဲ့လူတွေကျတော့လဲ ဘယ်အရပ်က ဘယ်သူဟာဖြင့် ဥပုသ်မစောင့်တဲ့အပြင် အကုသိုလ်ဒုစရိုက်တွေ ပြုနေတဲ့သူပဲလို့ ခွေးပုရပိုက်မှာ ရေးမှတ်သတဲ့။

"အဲလို စာရင်းကောက်ပြီးမှ တစ်လအကြာ၊ တစ်နှစ်အကြာကျတော့ စာရင်းနှစ်ခုစလုံးကို သိကြားမင်းကြီးအား တင်သွင်းကြသတဲ့။



"သိကြားမင်းက အဲဒီစာရင်းနှစ်ခုကိုကြည့်ပြီး ရွှေပုရပိုက်ထဲ စာရင်းဝင်တာများရင် ဝမ်းသာအားရနဲ့ နတ်သဘင်မှာ အမိန့်ရှိရှာတယ်။

"အမောင်တို့ရေ အခုအခါ လူ့ပြည်မယ် ကောင်းမှုပြုတဲ့သူတွေ သိပ်များပဲ၊ ဒီမှာ စာရင်းမှာတွေ့ရတယ်၊ ဝမ်းသာစရာဟေ့၊ တို့နတ်ပြည်မယ် နတ်သား နတ်သမီးတွေ တိုးပွားဦးမှာဟေ့လို့ ပြောပြီး သာခုခေါ်သတဲ့"

"တစ်ခါ ခွေးသားရေ ပုရပိုက်ကိုကြည့်တဲ့အခါ နတ်မင်းကြီးတွေ မျက်နှာမသာယာကြရှာဘူး၊ အရောင်အဝါတွေတောင် ညှိုးလျော်ရတဲ့အထိ ဖြစ်ကြရှာတယ်။

"အို ဒီလူတွေ လူဖြစ်ရကျိုး ရှုံးလိုက်တာပဲ၊ ရဟန်း သုံးပါးနဲ့တွေ့ကြုံပါလျက် မေ့မေ့လျော့လျော့ နေကြပလေ့တယ်၊ လူ့အဖြစ် အရှုံးကြီးရှုံးကြရပေသကိုး" လို့ ညည်းညူကြသတဲ့။

"ဒါကြောင့်မို့ ဥပုသ်သီတင်းတို့ မပျက်အောင် ကြိုးစားကြ နော်"

"မှန်ပါ အရှင်ဘုရား"

"ခွေးပုရပိုက်မှာ စာရင်းဝင်ရင်လဲ နောက်ထပ် မတိုးရ အောင်၊ ရွှေပုရပိုက်ထဲ ဝင်ရင်လဲ ရွှေကိုတိုးပြီး အမှတ်ခံရအောင် ကြိုးစားကြရမယ်နော်"

"မှန်လှ အရှင်ဘုရား"

"အဲလိုများ ဥပုသ်တွေ မှန်မှန်စောင့်သွားရင် အသက် ပိုရှည်ဖို့၊ ဘေးဒဏ်ရန်မာန် ကင်းစေဖို့၊ စီးပွားဥစ္စာတွေ တိုးတက် စေဖို့ကို သိကြားမင်းတွေ၊ နတ်မင်းကြီးတွေက ကူညီဝိုင်းမကြ သတဲ့။ ဒါကြောင့်မို့ အိမ်ရာဝင်၊ အိမ်ရာထတွေမှာ တစ်နေ့ကို နှစ်ကြိမ်ဖြစ်ဖြစ်၊ သုံးကြိမ်ဖြစ်ဖြစ် ငါးပါးသီလကို ခံယူရမယ်၊ ဘုရားရှိခိုးရမယ်၊ ဒါ့အပြင်လဲ ဥပုသ်နေ့ရောက်တိုင်း ဥပုသ်စောင့် ရမယ်၊ ဆယ်ပါးသီလလဲ ခံယူဖူးရမယ်၊ ကောသနိက်ရှုတင်တို့၊ ပဋ္ဌာန်းပိုဏ်ရှုတင်တို့ဆိုတာတွေကိုလဲ ဆောက်တည်ရမယ်နော်"

"မှန်ပါဘုရား"

"ဒါတင်မကဘူးကွ၊ ရူပက္ခန္ဓာ၊ ဝေဒနာက္ခန္ဓာ၊ သညာက္ခန္ဓာ၊ သင်္ခါရက္ခန္ဓာ၊ ဝိညာဏက္ခန္ဓာဆိုတဲ့ ခန္ဓာငါးပါးကိုလဲ အနိစ္စ၊ ဒုက္ခ၊ အနတ္တဆိုတဲ့ လက္ခဏာရေးသုံးပါးမှာတင်ပြီး ထင်မြင်အောင်ရှု ဆင်ခြင်ကြရမယ်။ ဒီနေရာမယ် ငါတို့ ဘုရားအလောင်းတော် အာရကာရသေ့ကြီးကို အတုခိုးရမယ်ကွ"

"အရှင်ဘုရား အဲဒီ အာရကာရသေ့ကြီးအကြောင်း ပြောပြပါဘုရား"



"အေး... အလောင်းတော်ဖြစ်တဲ့ အာရကာရသေ့ဆရာကြီးဆိုတာက အသက် အနှစ်ခြောက်သောင်းတန်းမှာ ရှိနေတာကိုး၊ ဒီတုန်းက ပုဏ္ဏားတစ်ယောက်က ဆရာကြီးကိုမေးတယ်တဲ့၊ ဘယ်လို မေးသလဲဆိုတော့-

'ဆရာကြီးခင်ဗျား၊ ဆရာကြီးဟာ ဘယ်လိုတရားကို အားထုတ်နေပါသလဲ' လို့ မေးတာ။

"အဲလို မေးတော့ အာရကာရသေ့ဆရာကြီးက-

'ပုဏ္ဏားရေ ငါကတော့ ခန္ဓာငါးပါးရဲ့ မမြဲပုံ၊ အစိုးမရပုံတွေကို ဆင်ခြင်ပွားများ အားထုတ်နေပါတယ်' လို့ ဖြေသတဲ့။

"ဒီတော့ ပုဏ္ဏားက ထပ်မေးပြန်တယ်-

'မဟုတ်ဘူး ဆရာကြီး၊ ခန္ဓာငါးပါး မမြဲတာကို ဘယ်လိုများ ပွားများနေပါသလဲ'

"ဟုတ်တယ် ဘုရား၊ မေးကို မေးသင့်တာဘုရား၊ အနှစ်ခြောက်သောင်းတောင် အသက်ရှည်ရက်နဲ့ ခန္ဓာငါးပါးမမြဲတာကို ဆင်ခြင်နေတယ်ဆိုတော့ မေးသင့်တယ် ဘုရား"

"အေး... ပေါက်ကျော်လဲ စဉ်းစားတတ်လာပြီပဲကိုး၊ အဲလိုမေးတော့ အာရကာ ဆရာကြီးက-

"ပုဏ္ဏားရယ်၊ အခု ငါ့အသက်က အနှစ်ခြောက်သောင်းတောင်ရှိနေတော့ အသက်ရှည်တယ်ဆိုရမှာပဲပေါ့၊ နို့ပေမယ့် မြက်ဖျားမှာသီးနေတဲ့ နှင်းပေါက်လေးလို ငါကထင်တာ၊ မြက်ဖျားမှာသီးတဲ့နှင်းပေါက်ဟာ နေမင်းထွက်လာရင် မြက်ဖျားမှာ ဘယ်လိုတည်နေနိုင်မှာလဲ၊ နေရောင်ထိတာနဲ့ ကြွေကျ၊ ပျော်ကျသွားမှာပါကွယ်၊ ချက်ချင်းလက်ငင်းကြီးကို ပျက်စီးသွားမှာ၊ ဒီလိုပဲ ငါ့ခန္ဓာကိုယ်ဟာလဲ အခုန နှင်းပေါက်လိုပဲပေါ့၊ နှင်းပေါက်ဟာ မြက်ဖျားမှာ မကြွေမီ၊ နေရောင်နဲ့ မတွေ့မီလောက်သာ အသက်ရှည်တော့မယ်၊ မကြာခင် ပျက်စီးရမှာ သေချာပေါ့တကား၊ အနှစ်ခြောက်သောင်းရှည်တယ်ရယ်လို့ မအောက်မေ့ခဲ့ဘူးလေလို့ ဖြေသတဲ့။

"တစ်ခါ ဒီနှင်းပေါက်လောက်ရင်မကဘူး ပုဏ္ဏားရယ်၊ ရေပွက်လိုလဲ ငါ ထင်ခဲ့တယ်၊ ဘယ်လိုထင်လဲဆိုတော့ မိုးရွာတဲ့အခါမှာ ကျလာတဲ့ရေတွေဟာ အိုးတွေထဲမှာ ပလုံစီလေးတွေဖြစ်လာတယ်၊ ရေပွက်လေးတွေ ဖြစ်လာတယ်၊ ရေပွက်တွေဟာ မကြာမီ ပျက်စီးသွားရော၊ ပျက်စီးတော့လဲ ဒီရေပွက်အတွင်းမှာ ဘာမျှ အနှစ်သာရဆိုတာ ရှိတာမဟုတ်ဘူး ပုဏ္ဏား၊ ဒီလိုပါပဲ ငါ့ခန္ဓာကိုယ်ဟာ အနှစ်သာရကင်းတဲ့ ရေပွက်တွေ မပျက်စီးမီ ခန့်လောက်သာ အသက်ရှည်တော့မှာ၊ မကြာမီ ပျက်စီးရတော့မှာပါကလား၊ အနှစ်ခြောက်သောင်းရယ်လို့ မအောက်မေ့နိုင်ပါဘူး ပုဏ္ဏားရယ်။



"ပုဏ္ဏားရယ် ဒါတွင်ဘယ်ကဦးမလဲ၊ တောင်ထိပ်ပေါ်ကနေ တောင်အောက်ကို စီးလာတဲ့ရေတွေလိုလဲ ငါ ထင်မှတ်တယ်။ တောင်ထိပ်ကနေ တောင်အောက်ကျလာရင် ချိုင့်ဝှမ်းရှိရာတွေဆီ စီးသွားတာပဲ၊ ဒီလိုပဲ ငါ့ခန္ဓာကိုယ်ကြီးဟာ တစ်နေ့တခြား ကြီးခြင်း၊ ရင့်ခြင်း၊ အိုမင်းခြင်း၊ ထိုင်းမှိုင်းခြင်း စတဲ့ ဇရာဘက်ကိုသာ ပါနေတာပဲလား။

"၁၀ နှစ်ရှယ်၊ ၁၅ နှစ်ရှယ် ပြန်ဖြစ်ချင်ပါတယ်လို့ တောင့်တပေမယ့် ရတာမဟုတ်ဘူး၊ တောင်အောက်ကျလာတဲ့

ရေတွေ တောင်ထိပ်ကို ပြန်မစီးနိုင်သလိုပဲပေါ့၊ ဒီခန္ဓာကိုယ်ကြီးက တရွေ့ရွေ့နဲ့ ဖောက်ပြန်ပျက်စီးနေပါကလား၊ အနှစ်ခြောက်သောင်းရယ်လို့ မအောက်မေ့နိုင်တော့ပါဘူး ပုဏ္ဏားရယ်လို့ အာရက ရသေ့ကြီးက ပြောပြရှာတယ်''

''ပေါက်ကျော် ငြိမ်လှချေလား''

''ငြိမ်ဆို ကိုယ်တော်ပြောနေတာကို လိုက်မှတ်နေတာဘုရား၊ ဘုရားလောင်း ရသေ့ကြီး ရှင်းပြတာတွေ မှန်လွန်းလို့ဘုရား''

''အေးဟယ် သံဝေဂဉာဏ်ကို အဲလိုပွားများနေရမှာသိလား၊ ဒါနဲ့ ဘုရားလောင်းရသေ့ကြီးက ဆက်ပြီး ပြောပြသေးတယ်။

''ပုဏ္ဏားကြီးရေ ဒီပြင်လဲ ငါ့စိတ်ထဲမှာ ဒီလို ထင်နေသေးတယ် ဆိုပါတော့ကွယ်၊ မြေကြီးပေါ် ထွေးချလိုက်တဲ့တံတွေးလိုလဲ ငါ ထင်မှတ်တယ်လေ၊ ပါးစပ်ထဲကနေ တံတွေးကိုမြေပေါ်ထွေးချလိုက်တော့ ဒီတံတွေးက မြေပေါ်ကျတာနဲ့ မရှေးမနှောင်း၊ ကာလမရှည်မတည် ရုတ်ခြည်းပဲ ခန်းခြောက်ခြင်း၊ ပျက်စီးခြင်းရောက်ရသလို ငါ့ခန္ဓာကြီးကလဲ အဲဒီတံတွေး မခြောက်ခန်းမီလောက်သာ တည်တော့မယ်လေ၊ မကြာခင် ပျက်စီးရတော့မှာပဲ

ကလား၊ အနှစ်ခြောက်သောင်းရယ် လို့ မအောက်မေ့နိုင်ပါဘူး ပုဏ္ဏားရယ်လို့ မိန့်ဆိုလိုက်တယ်''

''ပုဏ္ဏားရေ ဒါတွေ ဘယ်ကဦးမလဲ၊ ခြစ်ခြစ်တောက် ပူနေတဲ့ အိုးကင်းထဲပစ်ချလိုက်တဲ့ သားတစ်စိုတုံးလိုလဲ ငါ့စိတ်ထဲမှာ အထင်ရောက်နေတယ်၊ အိုးကင်းထဲချတာနဲ့ သားတစ်စိုဟာ အဆီအသွေး အသားမှစပြီး မကြာမီ ခန်းခြောက်သွားတာကွယ့်၊ ဒီလိုပဲ ငါ့ခန္ဓာကိုယ်ကြီးကလဲ အိုးကင်းပူထဲပစ်ချထားတဲ့ သားတစ်ဟာ မခြောက်မီခန့်မျှသာ ရှည်တော့မှာကိုး၊ မကြာမီ ပျက်စီးရတော့မှာပါကလား၊ ဒီလိုပဲ ငါ့ခန္ဓာကိုယ်လဲ အနှစ်ခြောက်သောင်းရယ်လို့ မအောက်မေ့နိုင်ပါဘူး ပုဏ္ဏားရယ်။

''ဒါ့ပြင်လဲ ငါ့စိတ်ထဲ ဒီလိုထင်တယ်၊ သတ်မယ့်ခါ်း်ဲ နွားကို သချိုင်းဆီ ဆွဲငင်သွားသလို ငါ့ကိုယ်ငါ ထင်မိတယ်၊ သတ်အံ့တဲ့နွားကို သတ်ရာသချိုင်းဆီသို့ နွားသတ်ယောကျ်ားက ဆွဲငင်သွားတယ်လေ၊ ဒီနွားဟာ သချိုင်းမရောက်သေးခင်မှာသာ အသက်ရှင်နေတာ၊ ဒီလိုပဲ ငါ့ခန္ဓာကိုယ်ကြီးကလဲ သတ်အံ့နွား သချိုင်းမရောက်ခင်သာ အသက်ရှင်တော့မှာလို့၊ မကြာခင် အသတ်ခံ ပျက်စီးရတော့မှာကလား၊ အနှစ်ခြောက်သောင်းရယ် လို့ မအောက်မေ့နိုင်တော့ပါဘူး ပုဏ္ဏားရယ်လို့ အမိန့်ရှိရှာတယ်''

"အဲ... ကိုပေါက်ကျော်၊ ဘုရားအလောင်း အာရက ရသေ့ဆရာကြီးက အဲလို သူ့ခန္ဓာကိုယ်ကို ခုနစ်ပါးသော အဒ္ဓါန လို့ဆိုတဲ့ အချိန်ကာလကို ခွဲခြမ်းဝေဖန်ပြီး ပုဏ္ဏားအား သုံးသပ်ပြလိုက်တယ်။

"မှန်ပါ အရှင်ဘုရား"

"အခု ငါတို့တစ်တွေဖြစ်ရတဲ့ သက်တမ်းက ရာတမ်း မဟုတ်လား"

"မှန်ပါ"

"ရာတမ်းဆိုရပေမယ့် ဆုတ်ယုတ်နေတော့ ၆၀၊ ၇၀ လောက်ပဲ နေကြရတော့တာကွ၊ ဘာမျှ ကြာတာမဟုတ်ဘူး၊ အခုန အာရက ရသေ့ကြီးတို့ရဲ့သက်တမ်းနဲ့နှိုင်းကြည့်ရင် မျက်စိတစ်မှိတ်၊ လျှပ်တပြက်လောက်သာ အချိန်ရှိတော့တာ"

"ဟုတ်ပါ့ အရှင်ဘုရားရယ်"

"ဒီတော့ ငါ့ရဲ့ခန္ဓာကိုယ်ဟာလဲ ဒီအဒ္ဓါန ခုနစ်မျိုးမှာ တစ်-မြက်ဖျားမှာသီးနေတဲ့ နှင်းပေါက်လို၊ နှစ်-ရေပွက်လို၊ သုံး-ရေရဲ့အရေးလို၊ လေး-တောင်ထိပ်က စီးကျတဲ့ရေလို၊ ငါး-မြေပေါ်မှာထွေးချတဲ့ တံတွေးလို၊ ခြောက်-အိုးကင်းပူထဲချတဲ့ သားတစ်စိုလို၊ ခုနစ်-သတ်မယ့်သချိုင်းဆီ မောင်းသွားတဲ့နွားလို

ပျက်စီးရတော့မှာပါကလားလို့ ဉာဏ်ထဲထင်အောင် သံဝေဂဉာဏ် ပွားကြရမှာ''

''မှန်ပါ အရှင်ဘုရား''

''ဒီလိုမှ မထင်မမြင်သေးရင်လဲ ကမ္မဋ္ဌာန်းလေးဆယ်ထဲက ကိုယ်အကြိုက်ဆုံး ကမ္မဋ္ဌာန်းကို ကိုယ့်စရိုက်နဲ့လိုက်ဖက်မယ့် ကမ္မဋ္ဌာန်းကိုရွေးပြီး အားထုတ်ကြရမှာ၊ ဟိုဟာကောင်းတယ်၊ ဒီဟာ ကောင်းတယ်လို့ ရွေးနေရမှာမဟုတ်ဘူး၊ အဲလိုရွေးနေရင်တော့ ရွေးနေတာနဲ့ပဲ အချိန်ကုန်သွားမှာ။

''ဟိုကွာ ရေထဲမျောနေတဲ့ ယောကျ်ားလိုဖြစ်မှာ''

''သူက ဘယ်လိုဖြစ်လို့လဲ အရှင်ဘုရား''

''အဲ... ယောကျ်ားတစ်ယောက် ရေထဲမျောနေသတဲ့၊ ဒါကို သူ့မိန်းမကတွေ့တော့ အံမယ်လေး... ဟိုရေထဲမျောနေတာ ငါ့ယောကျ်ားပဲ၊ ငါကလဲ ရေကမကူးတတ်၊ ငါ့လင်တော့ ကိုယ်ကျိုးနည်းတော့မှာပဲ၊ ဒီတော့ အများသူငါကြားအောင်လုပ်မှ၊ ဒါမှ ဝိုင်းဆယ်ကြမှာဆိုပြီး အော်သတဲ့။ အဲဒီမိန်းမ အော်ပုံက-

''ကယ်ကြပါ ရှင်တို့ရယ်၊ ကယ်ကြပါရှင်၊ ကျွန်မ ယောကျ်ား ရေမှာနစ်မွန်းပြီး မျောနေပါတယ်။

"ကျွန်မလင်က သူများလင်နဲ့မတူပါဘူး၊ ရောင်သုံးဆယ်နဲ့ လင်သားပါ၊ ဒါကြောင့်မို့ ကြာရင် အသက်သေရပါတော့မယ်၊ ကယ်ကြပါရှင်တို့ရယ်လို့အော်ရော အဲလိုအော်တဲ့အသံကိုကြားတဲ့လူတွေက-

"ဟော့... ဟော့... သူ့လင်က သူများလင်တွေနဲ့မတူဘူးဆိုပါလား၊ ရောင်သုံးဆယ်နဲ့ဆိုပါကား၊ ဘယ်လို ရောင်သုံးဆယ်လဲဆိုတာ သိရအောင် ဆယ်ကြည့်မှပဲဆိုပြီး ဝိုင်းဆယ်ကြသတဲ့၊ အဲဒါ ကုန်းပေါ်လဲရောက်ရော အမောအပန်းဖြေစေပြီး အော်တဲ့မိန်းမကို ဝိုင်းမေးကြသတဲ့။

"အိုဗျ... အစ်မကြီးရဲ့၊ ခင်ဗျားယောကျ်ားက ရောင်သုံးဆယ်နဲ့ဆို၊ ဘယ်လို ရောင်သုံးဆယ်ဆိုတာလဲ ပြောပါဦးလို့မေးရော အဲလိုမေးတော့ အော်တဲ့မိန်းမက-

"ဒီလိုပါတော်၊ ကျွန်မလင်ရဲ့ ရောင်သုံးဆယ်ဆိုတာက သူများလင်သားတွေလို သားမယားကို အလုပ် အကိုင်တွေ အတည်တကျနဲ့ လုပ်ကိုင်ကျွေးမွေးတဲ့ ယောကျ်ားမျိုး မဟုတ်ပါဘူး၊ ကျွန်မယောကျ်ားက 'မင်းရောင်ရောင်၊ စိုးရောင် ရောင်၊ စာရေးရောင်ရောင်၊ ဆရာရောင်ရောင်၊ သမားရောင် ရောင်၊ ကုန်သည်ရောင်ရောင်၊ ပွဲစားရောင်ရောင်နဲ့ ရောင်သုံးဆယ်နဲ့သာနေတဲ့ ယောကျ်ားပါ။

"ဘယ်တုန်းကမှ ပိပိပြားပြားနဲ့ ကောင်းကောင်းမွန်မွန်နဲ့ သားမယားကို ရှာဖွေကျွေးသူ မဟုတ်ပါဘူး၊ ဒါကြောင့်မို့ ရောင်သုံးဆယ်သမားလို့ အော်တာပါလို့ ရှင်းပြသတဲ့"

"ပေါက်ကျော်"

"ဘုရား"

"အဲလို ရောင်သုံးဆယ်သမား မဖြစ်ရအောင် ဉပုသ်ရောင်ရောင်၊ သီလရောင်ရောင် အခေါ်မခံရအောင် ဆရာကောင်း၊ သမားကောင်းတို့ထံ ချဉ်းကပ်ပြီး ကိုယ်နှစ်သက်ရာ ဘာဝနာအလုပ်တစ်ခုခုကို ဆောက်ချဖို့ပဲလိုတယ်၊ ဒါမှလဲ မဂ်ဉာဏ် ဖိုလ်ဉာဏ် နိဗ္ဗာန်ချမ်းသာမြတ်ကို ရကြမှာလို့ သတိရှိကြပေတော့ဗျာ"

"အခုခေတ်မယ် ရိပ်သာတွေကလဲ ပေါလိုက်တာ ဒုနဲ့ဒေးပဲ၊ ဒါကြောင့်မို့ နီးစပ်ရာ၊ အားသန်ရာ ရိပ်သာတစ်ခုခုမှာ နည်းနာခံပြီး စွဲစွဲမြဲမြဲ အားထုတ်ဖို့ကောင်းတယ်၊ ဟုတ်လား ပေါက်ကျော်"

"မှန်ပါ အရှင်ဘုရား"

"နို့ပေမယ့် ရောင်သုံးဆယ်တော့ သတိပြုနော်"

"မှန်ပါ ဘုရား"

* * *

# ဥပုသ်သည် ဖတ်စရာ

## (၄)

"ရွာဦးကျောင်း ဆရာတော်သည် ဥပုသ်နေ့ညမို့ ဘုရားဝတ်တက်ခြင်း စသည်ကို ပြုပြီးနောက် မိမိအခန်းထဲ၌ ခေတ္တအနားယူနေသည်။ မနက်ကလည်း သီလပေးတရားဟော လုပ်ရသေးသည်။ သည်ကြားထဲ သင်္ဃါဆွမ်းကျွေးပွဲတစ်ခုရှိသဖြင့် နေ့ဆွမ်းစားကြွကာ တရားစကား အနည်းငယ်ဟောရသေးသည်။

မကြာခင် ဥပုသ်ညတိုင်း လာအိပ်တတ်သော ကျောင်းဂေါပက နှစ်ဦး၊ သုံးဦးစ ရောက်လာကြသည်။ ကိုပေါက်ကျော်၊ ကိုတင်ဝင်း၊ ဦးအုန်းမြတို့ဖြစ်ကြသည်။ သူတို့က ညအိပ်မြဲသူများဖြစ်သည်။ ဆရာတော်သည် သူ့ဒကာများ အပြင်၌ စကား

ပြောသံကြားရသဖြင့် အခန်းထဲမှထွက်လာ၍ ကုလားထိုင်၌ထိုင်ချလိုက်သည်။

"ဟော… ကိုပေါက်ကျော်တို့ ဘာအလိုမကျလာလို့လဲ"

"အလကားပါ ဘုရား၊ ဟို မြောက်ဘက်ပိုင်းက ဒေါ်သန်းရှင်ကြီးအကြောင်းပါ၊ အတော်ကပ်စေးနှဲတဲ့ဟာကြီး ဘုရား"

"ဟဲ့… သူ့ ကပ်စေးနဲတယ်လို့ ဘာလို့ပြောရတာလဲ"

"နဲ့ကို နဲ့လွန်းလို့ဘုရား"

"ဒီလိုပါဘုရား၊ တပည့်တော်တို့ လမ်းကူးတံတားက အတော်လေးကို နဲ့ယိုင်နေပြီ ဘုရား၊ အဲ့ဒါ စုပေါင်းပြင်ရအောင်ဆိုပြီး ငွေလိုက်အလှူခံတယ်၊ အဲဒါ ဒေါ်သန်းရှင်က မလှူတဲ့အပြင်…

"ဟော့… နင်တို့ အားအားရှိတိုင်း အလှူခံတာ မထည့်နိုင်ဘူး ပြောလိုက်လို့ပါ"

"ဒါကလည်း မောင်တင်ဝင်းရ၊ သူ့မှာ လှူချင်တဲ့သဒ္ဓါမပေါ်သေးလို့နေမှာပါ၊ ခများလဲ ဒီလောက် မဆိုးပါဘူး"

"မဟုတ်ပါဘူးဘုရား၊ အရှင်ဘုရားကသာ မသိတာ၊ အလွန်ကို လက်ပေါက်ကတ်တဲ့ မိန်းမကြီး ဘုရား"

"ပေါက်ကျော် နင် အဲလိုမပြောနဲ့လေ၊ သူလည်း သူ့အတိုင်းအတာနဲ့နေမှာပေါ့၊ လှူတဲ့အခါလဲ လှူရှာပါတယ်။

"မင်းမလဲ ဥပုသ်ကြီးနဲ့ မဟုတ်လား"

"မှန်ပါ့ ဥပုသ်ကြီးနဲ့မို့ပေါ့ဘုရား၊ နို့မဟုတ်ရင်လား"

"ဘာလဲ မင်းက ဥပုသ်မရှိရင် နင်ပဲငဆပြောဦးမလို့လား"

"ဒီလိုလည်း မဟုတ်ပါဘူး ကိုအုန်းမြရာ"

"ဥပုသ်စောင့်တယ်ဆိုတာ ကိုယ့်မှာ အကျိုးရှိအောင်စောင့်ရတာဗျ၊ နဂိုစောင့်ကတည်းကိုက သူများအတွက်မဟုတ်ဘူး၊ ကိုယ့်အတွက်ရယ် ကိုပေါက်ကျော်၊ ကိုယ့်သန္တာန်မှာ လောဘနည်းအောင်၊ ဒေါသနည်းအောင်၊ မောဟနည်းအောင်၊ ဥပုသ်စောင့်တာ၊ ဟော... ဥပုသ်လေး စောင့်တည်ထားတော့ လောဘလည်းနည်းတယ်၊ ဒေါသလည်းနည်းတယ်၊ မောဟလည်းနည်းတယ် မဟုတ်လား"

"မှန်ပါ့ နည်းပါတယ်ဘုရား၊ ပေါက်ကျော်သာ အခုန ဒေါ်သိန်းရင်ကြီးကို ဒေါသထွက်တာ"

"မထွက်ပါဘူး၊ ဘုံအကျိုးရှိလုပ်ငန်းမို့ ထည့်ဖို့သင့်လို့ ပါ"

"အေး... ဟုတ်တာပေါ့၊ ဣဿာ-ငြူစူမှုနှင့် မစ္ဆရိယ-နှမြောတွန့်တိုမှုဆိုတဲ့ တရားနှစ်ပါးဟာ အလွန်ကြောက်စရာပဲ မောင်ပေါက်ကျော်"

"မှန်ပါ့ အဲဒါလေးပြောပါ ဘုရား"

"အဲဒီ တရားနှစ်ပါး ကိုယ့်မှာရှိနေရင် ဒီလူ ယုတ်မာသွားရော၊ အလကားနေရင်း အကုသိုလ်က အတုံးလိုက်၊ အတစ်လိုက် တက်နေတာ၊ သူများစားတာတွေလည်း ငြူစူတာပဲ၊ ဝတ်တာတွေ့လည်း ငြူစူတာပဲ၊ ကိုယ့်ဟာကျတော့ ဆတ်ဆတ်ထိခံတာမဟုတ်ဘူး၊ ဒီတော့ ဒီအယုတ်တရားနှစ်ပါးကိုလည်း မင်းတို့သန္တာန်မှာရှိနေရင် အသိဉာဏ်နဲ့ နှင်ထုတ်ပစ်ကြ"

"မှန်ပါ့"

"ဒါနဲ့ ပြောရဦးမယ်၊ ဟို သာဝတ္ထိပြည်က ရဟန်းတော်တစ်ကျိပ်နှစ်ပါးတို့ဟာ တစ်နေ့မယ် ရက္ခန်းသည်ရွာကြီးတစ်ရွာမှာ ဆွမ်းသွားခံကြသတဲ့၊ ဒီတွင် အဲဒီရွာက ရက္ခန်းသည် ဆရာ

ကြီးက ဒီကိုယ်တော်တွေ ဆွမ်းခံပုံက သိက္ခာရှိလွန်းတော့ လွတ်ကြည်ညိုသွားသတဲ့၊ ကိုယ်တော်လေးတွေက သင်္ကန်းဝတ်ပုံက လည်း သေသေသပ်သပ်နဲ့ ဝိနည်းနဲ့ညီသတဲ့၊ ကြည့်တာရှုတာကျ တော့လည်း ဝိနည်းနဲ့အညီပဲ၊ ဟိုကြည့်ဒီကြည့်မရှိ၊ စက္ခုဣန္ဒြေ တွေချလို့တဲ့ စကားလည်းမပြောဘူး၊ ရင်ပေါင်တန်းလဲမသွားဘူး၊ အားလုံး ကြီးစဉ်ငယ်လိုက် ကြွတာကိုး၊ ဒီတော့ ကြည်ညိုသွားတာ ပေါ့ မောင်အုန်းမြရယ်''

''မှန်ပါ့ ကြည်ညိုစရာပါဘုရား''

''ရတဲ့ထဲက တစ်ဖို့က စားဖို့...

တစ်ဖို့ကို ရင်းနှီးဖို့...

တစ်ဖို့ကို မြှုပ်နှံထားဖို့...

တစ်ဖို့ကို လှူဖို့တမ်းဖို့...

''ဒီလို မဟုတ်လား''

''ဟုတ်ပါတယ် ဘုရား''

''ဒီတော့ ရက္ခန်းသည်ဆရာကြီးက-

''အရှင်ဘုရားတို့ တပည့်တော်တို့ရွာမှာ ဝါတွင်းသုံးလ လုံးလုံး ဆွမ်းခံကြွပါဘုရား၊ တပည့်တော်ကပဲ တာဝန်ယူ လှူ

ဒါန်းပါ့မယ် ဘုရားတဲ့၊ ဆွမ်းဝတ်ပြုပါ့မယ် ဘုရားတဲ့ လျှောက်ပါရော၊ အဲဒီနေ့ကစပြီး ဟိုကိုယ်တော်တွေကလည်း ကြွကြသတဲ့ ပေါက်ကျော်"

"ဘုရား"

"ဒီဒကာကသာ သဒ္ဓါကောင်းလို့ ဖိလှူနေတာ၊ သူ့ဒကာမကတော့ ဒီလိုမဟုတ်ဘူး၊ မသဒ္ဓါဘူး၊ မကြည်ညိုဘူးတဲ့။ လင် လှူတာကို ကိုယ်က ဝမ်းသာနေရမှာကို ဝမ်းမသာဘူးတဲ့။

"လင်နဲ့အတူ ကြည်ဖြူနေရမှာကို သူက အဲလိုမမြင်ဘဲ ငြူစူနေတယ်၊ နှမြောနေသတဲ့၊ ကုန်တယ် ခန်းတယ်ရယ်နဲ့ တဖျစ်တောက်တောက်ကြီးကိုး"

"ရှေ့သွားနောက်လိုက် မညီတာပါဘုရား"

"ဟုတ်ပါ့ ကိုပေါက်ကျော်၊ နင်လဲ ပြောတတ်သားကိုး"

"အရှင့်နှယ် ပြောတတ်ဆို သူတို့အတွဲနဲ့ ကွာလို့နေမှာ"

"ဟေ... ဘယ်လို ကွာလဲ၊ ပြောပါဦး မောင်တင်ဝင်းရ"

"ကွာဆို၊ သူ့ကတော်က လှူမယ်လုပ်ရင် ပေါက်ကျော်က... ပေါက်ကျော်က"

"ဟော့... ငါ့ကို ဘာမို့လဲ၊ ချင့်လှူတဲ့ဘုရား"

"ဟား... ဟားဟား"

"ဒါလဲ ဟုတ်ပါတယ်၊ ချင့်ချိန်ရမှာကိုး"

"ဒါနဲ့ အဲဒီလို ဒီဒကာမ ဣသာ-တရားက ပြုံးစူလိုက်သေးတယ်။

"ငါ့မှာဖြင့် မစားရက်၊ မသောက်ရက်နဲ့ မဝတ်ရက်နှင့် စုဆောင်းထားလိုက်ရတာ၊ သူကတော့ဖြင့်လေ ဒီကိုယ်တော်တွေကိုလှူပစ်တော့ ဝါတောင် ကျွတ်အောင်ခံမှာမဟုတ်ဘူး၊ ကုန်မှာပဲ"

"ဒီလို အသိဉာဏ်မရှိ၊ မိုက်တွင်းနက်တဲ့ လင်မျိုးကို ဘယ်ဘဝမှ မတွေ့မကြုံရပါစေနဲ့...

"ကိုယ့်မှာရှိတာကို နှိုင်းချိန်ပြီးလည်း မလှူဘူး၊ ငါက မသဒ္ဓါတာ၊ ဒင်းက လှူလို့ကော ကောင်းမှာလား၊ ဒါကြောင့်မို့ ဒင်းတော့လား ရောက်ရာဘဝမှာ မစင်တွေပဲ စားရပါစေတော် လို့တောင် ကျိန်ဆဲလိုက်သေးသတဲ့"

"အတော်ဆိုးတဲ့ ဟာမကြီး ဘုရား"

"အဲဒီလိုနဲ့ ဒကာက ဆွမ်းလောင်း၊ ဒကာမက မစ္ဆရိယ သမား၊ ဣဿာသမားဆိုတော့ ငြူစူတယ်၊ နှမြောတယ်နဲ့နေလာ တာ သီတင်းဝါလ ကျွတ်ရောဆိုပါတော့ကွာ၊ သီတင်းဝါလလည်း ကျွတ်ရော ဒကာကြီးက အင်း... ငါ တစ်ဝါတွင်းဖိတ်ထားတာ အခု ကုန်သွားပြီ၊ ဒီတော့ ဒကာကြီးက တစ်ပါးလျှင် သင်္ကန်း တစ်စုံစီ လှူဦးမှလို့အကြံရပြီး သူ့ဒကာမကို တိုင်ပင်တယ်၊ တိုင်ပင်တော့ ဘယ်သဘောတူမလဲ၊ ဒါပေမယ့် မတတ်နိုင်တဲ့အဆုံး မတော့ လှူ...လှူလို့ အော်ကြီးအောင်ကြီးနဲ့ သဘောတူလိုက်တယ်။

"ဒင်းတော့လား ငါ မသဒ္ဓါတာကိုလှူရတာ နောက် ဘဝ၌ ဒင်းလား အဝတ်အစားမျှ မကပ်ရဘဲရှိပါစေလို့ ကျိန်ဆဲ လိုက်သေးတယ်။

"ဒကာကြီးက သဒ္ဓါတရားအားရှိတော့ သူ့မိန်းမ လှူလှူ မလှူလှူ လှူဖြစ်အောင် လှူလိုက်တယ်တဲ့၊ အဲဒါ သူတို့လင်မယားလည်း အချိန်ကျတော့ ဘဝတစ်ပါး ပြောင်းကုန် ကြတာပေါ့။

"အဲဒီ ဒကာကြီးက သဒ္ဓါတရားရှိသူဆိုတော့ ဘုမ္မစိုး နတ်ကြီးဖြစ်တယ်၊ ကြီးကျယ်ခမ်းနားတဲ့ ဘုံပြာသာဒ်ကြီးနဲ့တဲ့၊ နတ်စည်းစိမ်ကို ခံစားရတယ်"

"ဒကာမကြီးကကော ဘုရား"

"ဟိုဟာမကြီးကော"

"အင်း... သူကတော့ ရွာအပြင်ဘက်က ကျင်ကြီးကျင်ငယ်စွန့်ရာအရပ်မှာ အဝတ်အစားမရှိ ဗိုက်လုံးလုံးကြီးနှင့် ပြိတ္တာမကြီးသွားဖြစ်တယ်လေ၊ စားတာကကော ကြည့်ဦး၊ မစင်တွေပဲ စားရတယ်တဲ့"

"ကြောက်စရာပါလား ဖိုးတင်ဝင်း"

"ဟုတ်ပါ့"

"အဲဒါနဲ့ ရက္ခန်းသည် ဆရာကြီးဘဝကဖြစ်လာတဲ့ ဘုမ္မစိုးနတ်ကြီးက သူ့မိန်းမ ဘယ်ဘဝရောက်နေသလဲလို့ကြည့်လိုက်တယ်တဲ့၊ ပြိတ္တာမကြီးဖြစ်နေတာကို တွေ့တာကိုး၊ တွေ့တော့ သနားလိုက်တာတဲ့"

"အရှင်ဘုရား တဏှာပေမများ တယ်ကြောက်စရာကောင်းတယ်၊ အခုထိတောင် သနားတုန်းနော်"

"အောင်မာ... မင်းကကော"

"အင်း... ဒီလိုပဲနေမှာပါ ဖိုးတင်ဝင်းရ"

"ဒီထက်ဆိုးမယ်ပြောပါ ပေါက်ကျော်ရာ"

"ဒါနဲ့ ဘုမ္မစိုးနတ်ကြီးက သူ စားရတဲ့ နတ်သုဒ္ဓါဘောဇဉ်တွေကို သွားကျွေးရှာသတဲ့"

"တော်ပါသေးရဲ့"

"မတော်နဲ့ ကိုပေါက်ကျော်၊ သူ့ဆီက ကုသိုလ်ကံမှ မဟုတ်တာ၊ ဣဿာ၊ မစ္ဆရိယဆိုတဲ့ အကုသိုလ်ကံမဟုတ်လား၊ အဲဒီကံက ဆက်နေလိမ့်မယ်၊ ဟိုဒကာမကံ ဒီဣဿာ၊ မစ္ဆရိယကံ ကို တစ်သက်လုံး လုပ်လာတာ၊ ဒီတော့ ကောင်းကောင်းကြီးကို အကျိုးတွေပေးနေတာ။

"အဲဒီလို နတ်ကကျွေးပေမယ့် စားမလို့ဆိုပြီး ပြိတ္တာမက သူ့ခံတွင်းထဲ သွင်းလဲသွင်းရော မစင်တွေပဲ ဖြစ်သွားသတဲ့ဗျာ"

"အတော့်ကို ကြောက်စရာပါပဲလား"

"အေး... ဟုတ်တယ်၊ ဒါဟာ သူ့အကုသိုလ်အတွက်ပါပဲ၊ ဒီတော့ ကြောက်စရာကောင်းမှန်းလည်းသိပြီ၊ အေး ကိုယ့်မှာ သဒ္ဓါတရားမရှိလို့ မလှူရင်နေပေါ့၊ သူတစ်ပါးလှူတဲ့ အလှူများကို ဣဿာ၊ မစ္ဆရိယမဖြစ်ဖို့ သတိနဲ့နေကြပေတော့"

"နောက်တစ်ခု ရှိသေးတယ်"

"ပြောပြပါ ဆရာတော်၊ အစောကြီးရှိသေးတယ်"

"ဒီ သာဝတ္ထိအနီးမှာပဲ သူကြွယ်သားတစ်ယောက် ရှိတယ်၊ သူက ချမ်းလည်းချမ်းသာ၊ သဒ္ဓါတရားလည်း သိပ်ရှိဆိုပဲ၊ ရဟန်းသံဃာဆိုလည်း အလွန်ကြည်ညို ကိုင်းရှိုင်းတာတဲ့"

"အဲ... လောကကြီးကလည်း တွဲဖက်တတ်တယ်၊ သူ့ဇနီးမတ္တာကျတော့ သဒ္ဓါတရားလည်းမရှိ၊ အလွန်ဝန်တိုတဲ့မိန်းမ၊ ဣဿာ၊ မစ္ဆရိယ အလွန်များဆိုပဲ။

"အဲဒါ သူ့ယောကျ်ားက လှူမယ်ဆိုရင် အမြဲ ကန့်ကွက်တယ်၊ ကုန်သလေး၊ ခန်းသလေးနဲ့ပေါ့ကွာ၊ ဒီတော့လည်း သူ့ယောကျ်ားက နှစ်ကြိမ် သုံးကြိမ်လောက် လှူမယ်ကြံရင် ဒီမိန်းမဝင်ရှုပ်နေတာနဲ့ တစ်ကြိမ်လောက်ပဲ သူ့ခမျာ လှူရရှာသတဲ့။ တစ်ကြိမ်လောက်ဆိုရင် လှူတောင် မလှူရရှာဘူး၊ အဝတ်အထည်တို့ဘာတို့ လှူမယ်ဆိုရင် အထည်သုံးထည်လှူမယ်လုပ်ရင် တစ်ထည်ပဲ လှူရရှာတယ်၊ တစ်ထည်လောက် လှူမယ်ကြံရင် လှူတောင် မလှူရရှာဘူးတဲ့။ အဲဒီလောက် ဣဿာများတာ၊ မစ္ဆရိယများတာကွ။

"အဲဒီလိုနေလာတယ်၊ အိမ်ထောင်သက် မနည်းတော့ဘူး၊ ဒီတွင် သူကြွယ်သားက စိတ်ပြောင်းသွားတယ်၊ ဘယ်လိုပြောင်းသွားသလဲဆိုတော့ မတ္တာနဲ့ ပေါင်းသင်းလာတာလည်း နှစ်တွေလည်း မနည်းတော့ဘူး၊ အခုထက်ထိကို သားသမီးဆိုလည်း တစ်ယောက်မှ မထွန်းကားဘူး၊ ဒီအတိုင်းဆိုရင် တို့သေသွားက ပစ္စည်းဥစ္စာတွေဟာ အလကားဖြစ်ကုန်မှာပဲ၊ ဒါနဲ့တောင် တန့်မှာမဟုတ်ဘူး၊ ငါ့မျိုးဆက်လည်း ပျောက်မှာ၊ ဒီတော့ တိဿဆိုတဲ့ အမျိုးသမီးကို မယားအဖြစ် ပေါင်းသင်းမှဖြစ်မယ်။

"ဒါနဲ့ တိုတိုပဲဆိုပါတော့၊ အဲဒီ တိဿကို မယားအဖြစ်ယူပြီး တစ်အိမ်တည်း/အတူတူနေကြသတဲ့။

"ဒီတွင် မတ္တာက စခန်းထတော့တာပဲ၊ ငါလို မယားကြီးငုတ်တုတ်ရှိလျက်နဲ့ ဒီကောင်မက အရှက်အကြောက်မရှိဘဲ ငါ့လင်ကို ခိုးယူတယ်၊ ဘာတယ်နဲ့ ကဲ့ရဲ့တယ်၊ လင်ကိုပြောမရဘူးကိုး၊ ဒီလိုနဲ့ပဲ မတ္တာခမျာ စိတ်မသက်မသာနဲ့ နေနေရသတဲ့"

"သူကြွယ်သားကတော့ သိပ်ကိုပျော်နေတာ၊ ပျော်တယ်ဆိုတာက တိဿနဲ့က စိတ်သဘောချင်းက တူတာကိုး၊ လင့်စကားကို သူက လိုက်နာတယ်၊ လိမ္မာရေးခြားရှိတယ်၊ အလှူကောင်းမှုတွေကို တက်ညီလက်ညီနဲ့ လှူကြသတဲ့၊ ဒီတော့ လှူ

စရာရှိရင် လင်လုပ်သူကလည်း တိဿနဲ့သာ တိုင်ပင်တယ်၊ ဟို မတ္တာကိုတော့ မတိုင်ပင်တော့ဘူး။

"အဲဒီလို စိတ်စေတနာ သဒ္ဓါတရားညီညီနဲ့လှူနေတော့ မတ္တာက အသားဆတ်ဆတ်ခါအောင် စိတ်နာပြီး ဒေါမနဿများ များနေတယ်၊ ဒါ ဒီကောင်မ ငါ့လင်ကို ပလီပလာနဲ့ ပတ်ချွဲနှပ်ချွဲ လုပ်လို့နေမှာ။

"သိမယ် ငါ့အကြောင်း သိစေမယ်၊ ဒင်းအခန်းကို ဟိုကောင် မသွားနိုင်အောင်ဆိုပြီး ခွေးလှေးယားသီး (ငွေ့ငန်သီး) များကို အမှုန့်ထောင်း၍ တိဿရဲ့အခန်းကို ကြဲဖြန့်ထားလိုက်တယ်။

"ဒါတွင်မကဘူး၊ တိဿရဲ့ ဝတ်ကောင်းစားလှတွေကို လည်း မဝတ်ရအောင် ဖွက်ထားတယ်၊ ဒီကောင်မ ဒါတွေဝတ်နေ ရင် ဟိုက စွဲလမ်းနေဦးမယ်၊ ဖွက်ထားမှဆိုပြီး ဖွက်ထားတယ်၊ ဘယ်လောက် ဣဿာ၊ မစ္ဆရိယ များလည်းဆို မင်းတို့ အဲဒါပဲ ကြည့်။

"ဒါတင် မကသေးဘူး... တိဿ မလိမ်းခြယ်နိုင် အောင် နံ့သာ အမွှေးအကြိုင်တွေကိုလဲ နံ့သာတုံး နံ့သာခေါက် များကိုလည်း မစင်တွင်းချပစ်လိုက်တယ်၊ သူတို့လင်မယားသုံး

ယောက် ခေါင်းလျှော်ရင်လဲ မတ္တာက သူ့လင်နဲ့အတူ အရင်လျှော်တယ်၊ တိဿ အလှည့်ကျရင်တော့ တရော် ကင်မွန်းရည်များကို မကောင်းတဲ့ ရေပုပ်ရေနှောက်တွေနဲ့ စပ်ထားတာကို လျှော်စေတယ်၊ ခေါင်းလျှော်ပြီးတော့လည်း ဒီကောင်မ လှချင်ဦးဆိုပြီး တိဿရဲ့ခေါင်းကို မီးဖိုက ပြာနဲ့ပက်သတဲ့။

"ဒါဟာ မတ္တာရဲ့ ဣဿာ၊ မစ္ဆရိယတွေပဲကွ။ တိဿကတော့ မတ္တာ ဘာပဲလုပ်လုပ် သည်းခံရှာတယ်၊ နှလုံးသွင်းကောင်းကောင်းနဲ့ သတိလည်းပေးတတ်တယ်။

"အစ်မရယ် ရွှေ ငွေ ကျောက်သံပတ္တမြား ဥယျာဉ်လယ်ယာ စတဲ့ ဥစ္စာစီးပွားတွေဟာ ပေါများပြည့်စုံပါရက်နဲ့ မေ့မေ့လျော့လျော့ မနေနဲ့၊ အစ်မရဲ့ နောက်နောင်သော ဘဝဟောင်းက ဒါန၊ သီလအကျိုးဆက်ကြောင့် အခုဘဝမှာ ကြွယ်ဝချမ်းသာနေကြရတာ။

"အခုဘဝ အသစ်တစ်ဖန် ဒါန၊ သီလကိုလုပ်ရင် အခုစည်းစိမ်ထက် အဆအရာအထောင်သာတဲ့ စည်းစိမ်ချမ်းသာကိုရမှာ၊ ဒီတော့ အစ်မရယ် ကြိုးစားပြီး ဒါန၊ သီလတွေ လုပ်စမ်းပါလို့ တိုက်တွန်းရှာတယ်"

"ဒီတော့ မတ္တာကလည်း အမယ်လေးဟဲ့ မိန်းမအငေ်မှာ တုံးကြီးရယ်၊ နင်က ငါ့များ မိကျောင်းမင်း ရေကင်းပြဆိုသလို နင်ပြောမှ ငါက သိရမှာကိုး၊ ညည်း ဆုံးမမှ ငါက ပြုရမယ်ကိုး၊ နင် ပြောတာ အကောင်းမှတ်လို့လား၊ နင် တိုက်တွန်းတာက ငါ့ရွှေငွေတွေကုန်အောင် သိလား၊ နင်ပြောတဲ့ ဒါန၊သီလကို မပြုနိုင်ဘူး၊ ငါ့ရွှေငွေတွေကို ထိရဲထိကြည့်ဆိုပြီး ရွှေငွေတွေကို သေတ္တာထဲထည့်ပြီး သော့ခတ်ထားလိုက်သတဲ့။

"အဲလိုနဲ့ တစ်နေ့ကျတော့ မတ္တာဟာ ရောဂါတစ်ခုနဲ့ သေရော၊ သေတော့ သူ့မှာ ဣဿာ၊ မစ္ဆရိယ အကုသိုလ်ကံရယ်၊ လင်ကိုမရိုမသေလုပ်တဲ့ ကံရယ်၊ တိဿကို နိုင်ထက်စီးနင်း လုပ်တဲ့ကံရယ်နှင့် ပြိတ္တာမကြီး သွားဖြစ်တယ်။

"သူ့ပုံပန်းသဏ္ဍာန်ကိုလည်း ကြည့်ဦး၊ အဆီအသားမရှိ ခန်းခြောက်ပါးချပ်တဲ့ ခန္ဓာကိုယ်ရယ်၊ လင်းကွင်းပမာဏရှိတဲ့ မျက်လုံး၊ ထွန်းတုံးပမာဏရှိတဲ့သွား၊ စာပေါင်းသိုက်လို့ ရှုပ်နေတဲ့ဆံပင်၊ ခန္ဓာကိုယ်အနံ့ကလဲ တစ်ဖက်သား အနံ့မခံနိုင်အောင် အလွန်နံတဲ့မစင်နံ့၊ ခြေသည်းလက်သည်းကလည်း စွန်လက် သည်းများလို ချွန်ထက်နေတဲ့ ခြေသည်းလက်သည်း၊ အဝတ် လည်းမကပ်နိုင်ဘူး၊ ခန္ဓာကိုယ်ကလည်း ယားယံလိုက်သေး၊

ဒီအခါ မခံနိုင်လွန်းသဖြင့် လက်သည်းနဲ့ကုတ်တဲ့အခါ သင်တုန်းဓားစက်နဲ့ခွဲသလို အက်ကွဲခြင်း၊ စပ်ခြင်း၊ ပူခြင်းဒုက္ခကိုလည်း ခံစားရသတဲ့။

"ဒီအခါ သူက သတိရသေးသတဲ့၊ ငါဟာ လူစင်စစ်ဖြစ်တုန်းက မွှေမွှေလျှောလျှောနဲ့နေတယ်၊ ရတနာသုံးပါးကို ရှိခိုးခြင်း၊ ပူဇော်ခြင်း၊ လှူဒါန်းခြင်း စတဲ့ ဒါနသီလများကို သဒ္ဓါ ကြည်ညိုစွာမပြုခဲ့၊ လင်သားက လှူတာတောင် ငါက ဝန်တို တားမြစ်ပိတ်ပင်တော့ မစ္ဆရိယပြုခဲ့တယ်။ အခုတော့ ငါ့မှာ လင်နဲ့ ညီမ တိဿမှတစ်ပါး အားကိုးစရာမရှိတော့ဘူး၊ ဒီတော့ သူတို့ဆီက အကူအညီသွားတောင်းမှပဲ ကြံသတဲ့။

အဲဒါ သွားရော... တိဿအိမ်နားရောက်တော့ တံစက်မြိတ်လွတ်ရာ ပြင်ပက မြင်လောက်အောင် ကိုယ်ကိုပြပြီး ရပ်နေလိုက်တယ်။

"အဲဒီလိုပြတော့ တိဿက ဘွားခနဲမြင်လိုက်တာကိုး၊ မြင်တော့ မေးတယ်။

"ရပ်ကြီးက ဆိုးလိုက်တာ၊ ဟဲ့... မိန်းမယုတ်၊ ငါ့အိမ်ကောင်း ရာကောင်းရှေ့မှာ ဘာလို့လာရပ်တာလဲ၊ ကျက်သရေ‌တုံး

လိုက်တာ၊ ရုပ်ကလည်း ကြောက်စရာကောင်းလိုက်တာ၊ နင်ဟာ ဘယ်အမျိုးကလဲ”

“အဲဒီလို ငေါက်ငမ်းမေးတော့...

“ကျုပ် အခြားလူမဟုတ်ပါ မတ္တာပါ၊ မကြောက်ပါနဲ့ ညီမရယ်၊ အစ်မဟာ လင်သားနဲ့ ညီမတို့ပြောစကားကို နားမထောင်ခဲ့ဘူး၊ အကောင်းလည်း မထင်ခဲ့ဘူး၊ မလှူမတန်းဘဲနဲ့ ပစ္စည်းတွေကို သေတ္တာထဲထည့် သော့ခတ်ထားတဲ့အပြင် မစ္ဆရိယ တရားတွေပွားခဲ့လို့ အခုတော့ အဲဒီကံကြောင့် ပြိတ္တာမကြီး ဖြစ်နေရပြီ ညီမရဲ့”

“ဒီတော့မှ တိဿက သနားသွားတယ်၊ သနားပေမယ့် အကုန်အစင် သိအောင်မေးဦးမှဆိုပြီး ထပ်မေးတယ်၊ မေးပုံက...

“အစ်မရယ်...အစ်မကိုယ်က ယားယံတာကြောင့် မကြာခဏ ကုတ်ရဖျောက်ရနဲ့ အသားအရေတွေ ကွဲအက်နေတယ်၊ ကိုယ်မှာလည်း အဝတ်မရှိ၊ ကိုယ်တုံးလုံးချည်းနဲ့၊ ကိုယ်အနံ့ကလည်း မကောင်းလိုက်တာ၊ စက်ဆုပ်စရာ မစင်နံ့တွေက ဟောင်နေတာပဲ၊ ဆံပင်ကလည်း အုန်းဆီမရှိ ငှက်သိုက်လို၊ သပွတ်အူကြီးလို ရှုပ်ပွနေတာပဲ၊ ဒါတွေဟာ ဘယ်လို အကုသိုလ်အကျိုးတွေကြောင့် ဖြစ်ရသလဲ၊ ဟုတ်မှန်ရာပြောပါ၊ ကျွန်မလည်း

အကုသိုလ် ဒုစရိုက်တွေ ကြောက်လွန်းလို့ ရှောင်ကြဉ်ချင်လို့ ပြောရော။

"ဒါဆို ညီမလေး နားထောင်၊ အစ်မရဲ့ အကုသိုလ် အဟုန်တွေ ပြောမယ်နော်၊ ငါ့ကိုယ်က မကြာမကြာ ယားယံနေ တာက သူကြွယ်သားနဲ့ ညီမတို့အိပ်ခန်းတွင်းမှာ စကားစမြည် ပြောဆိုနေတဲ့အခါ ငါက မစ္ဆရိယစိတ်တွေများပြီး လင်တော်မောင် ညီမထံ နှောင်မလာဝံ့အောင် ယားယံစေတတ်တဲ့ ခွေးလှေးယားသီး အမှုန့်ထောင်း အိပ်ရာပေါ် ဖြူးထားပြီးပြုခဲ့တယ်၊ အဲဒါကြောင့် ယားယံတာ၊ တစ်ခါ အဝတ်မရှိတာက ရေချိုးတဲ့အခါ ရေမှ အတက်၌ အသစ်ဖြစ်တဲ့အဝတ်တွေကို ညီမဝတ်ရင် လှပနေမှာ စိုးပြီး မဝတ်စေချင်တာနှင့် အဝတ်ကိုဝှက်ထားမိတဲ့ အကုသိုလ် ကံကြောင့်ပါ၊ တစ်ခါ မစင်နံ့ နံနေတာက ညီမဟာ မိန်းမတို့ မွှေတာအတိုင်း လိမ်းလိုသဖြင့် နံ့သာအကျော်ကရမက် စတဲ့ အမွှေးအကြိုင်ကိုသွေးတဲ့အခါ မစ္ဆရိယဖြင့် ဒီလောက်လှချင်တာ လှဦးဆိုပြီး အဲဒီပစ္စည်းတွေကို မစင်တွင်းချခဲ့မိလို့ပါ။

"ဆံပင်တွေ ရှုပ်ပွနေတာက ခေါင်းလျှော်တဲ့အခါ ညီမ ခေါင်းလျှော်ရည်ထဲ သန့်ရှင်းနေမှာကို မရှုစိမ့် မနာလိုလို့ နှင့်

ခေါင်းကို ပြာနဲ့ပက်ခဲ့လို့ပါ၊ အခုတော့ တူတဲ့အကျိုးပေး၊ ခန္ဓာကိုယ်က ပျောက်ကျားရုံမက ဆံပင်က ရှုပ်နေရော''

''အဲဒီလိုပြောတော့ တိဿက သနားသွားတယ်၊ ညီမက ပြောရက်သားနဲ့ အစ်မက အခုလိုဖြစ်ရတယ်လို့''

''ဟုတ်ပါတယ် ညီမရယ်၊ အစ်မရဲ့အမှားတွေပါ။

''ညီမက ပညာ သဒ္ဓါတရား ရှိသူပါ၊ အစ်မကသာ ငါ့လင်ကို ကြိုက်ရမလားဆိုပြီး ဒေါမနဿ ဗျာပါဒနှင့် မစ္ဆရိယများရှိသမျှကို ညီမ မခံစားရဘဲ အစ်မ ခံစားရတာပါ၊ ဒါကြောင့် ညီမကို အားကိုးပါတယ်၊ အစ်မကိုကယ်ပါ ညီမရယ်''

''ဒီတော့ အဝတ်ရော၊ အစားအစာတွေရော ပေးလိုက်တယ်၊ ဒီတော့ ပြိတ္တာမက ညီမရယ် အစ်မကို တကယ်သနားမယ်၊ မေတ္တာရှိမယ်ဆိုရင် ဒီအဝတ်အစားတွေ မပေးပါနဲ့၊ ပေးလည်း ဝတ်စားရမှာ မဟုတ်ပါဘူး၊ နင့်လင်ကိုတိုင်ပင်ပြီး ရဟန်းသံဃာတော်တို့အား ဆွမ်းခဲဖွယ်ဘောဇဉ်နှင့်တကွ သင်္ကန်းများကပ်လှူပါ၊ ပြီးရင် ရေစက်ချ အမျှဝေပေးပါ၊ ဒါမှ အစ်မဝတ်ရစားရမှာပါ၊ ပြိတ္တာဘဝမှ လွတ်မှာပါလို့ ပြောရှာတယ်''

"ဒီတော့ ကောင်းပါပြီလို့ဝန်ခံပြီး ခင်ပွန်းအား မတ္တာရဲ့ အကြောင်းစုံကိုပြောပြပြီး ရဟန်းသံဃာတို့ကိုပင့်ဖိတ်လှူပြီး သေသူ မတ္တာကိုရည်စူး၍ လှူရသောကုသိုလ်အဖို့ကို အမျှပေးဝေလိုက်ရော။

"ဒီတော့မှ ပြိတ္တာမကြီး မတ္တာဟာ ဝမ်းမြောက်စွာသာဓုခေါ်တဲ့အဆုံး၌ ပြိတ္တာဘဝမှလွတ်မြောက်ကာ ရှုချင့်စဖွယ် လှပတင့်တယ်သော အဆင်းနဲ့ပြည့်စုံတဲ့ နတ်သမီး ဖြစ်ရရှာတယ်တဲ့။

"ဒီအခါ ညီမတိဿရဲ့ ကျေးဇူးကိုပြန်ဆပ်လိုတာနဲ့ အခုလို ငါဟာ ပြိတ္တာအဖြစ်မှ နတ်သမီးအဖြစ်ရသည်မှာ မိဘပေးလို့မဟုတ်၊ အမိအဖတို့ပေးတဲ့အသက်လည်းမရှိ၊ ခင်ပွန်းဟောင်းနဲ့ ညီမ တိဿတို့ရဲ့ကျေးဇူးကြောင့်သာ ဒီလို ချမ်းသာကိုရပေတယ်၊ ညီမလေးပေးတဲ့အသက်သာ ရှိတော့တယ်၊ ဒီတော့ ညီမလေးကို ကျေးဇူးဆပ်တဲ့အနေနဲ့ နတ်သမီးက ပြောတာ...

ညီမရေ... ဒီနေ့ကစပြီး အစ်မကြီး ဒိဋ္ဌဖြစ်တဲ့ ဣဿာ၊ မစ္ဆရိယ အကုသိုလ်ကံအကျိုးများကို သိမြင်တဲ့အတိုင်းရှောင်ပါ၊ ပါဏာတိပါတ၊ အဒိန္နာဒါန၊ ကာမေသုမိစ္ဆာစာရဆိုတဲ့ ကာယကံသုံးပါး၊ မုသာဝါဒ၊ ပိသုဏာဝါစာ၊ ဖရုသဝါစာ၊ သမ္ဖပ္ပလာပဆိုတဲ့ ဝစီကံလေးပါး၊ အဘိဇ္ဈာ၊ ဗျာပါဒ၊ မိစ္ဆာဒိဋ္ဌိဆိုတဲ့ မနော

ကံသုံးပါးစတဲ့ ဤဆယ်ပါးသော ဒုစရိုက်တရားကိုရှောင်ပါ။ ဒါန သီလ ဘာဝနာ အပစာယန ဝေယျာဝစ္စ၊ ပတ္တိဒါန ပတ္တာနုမောဒနာ ဓမ္မသဝန ဓမ္မဒေသနာ၊ ဒိဋ္ဌိဇုကမ္မဆိုတဲ့ ပုညကြိယာဝတ္ထုဆယ်ပါးကို ကိုယ်၌မကွာမြဲပါလေ စသည်တို့ကိုပြောပြီး နတ်သမီး ကွယ်ပျောက်သွားသတဲ့။

"မှန်ပါ ဘုရား"

* * *

# ဥပုသ်သည် ဖတ်စရာ

## (၅)

''ပေါက်ကျော်''

''ဘုရား''

''ဒီတစ်ခါတော့ အရင်ဆုံး ရောက်လာပါလား''

''မှန်ပါ့ ကိစ္စလေးရှိတာနဲ့လာတာ ဘုရား၊ အဲဒါ အပြန်မှာ ရိုးထဲမယ် ကြာညိုပန်းပွင့်တာတွေ့တာနဲ့ အရှင်ဘုရားလှူရန် ခူးလာတယ်ဘုရား''

ထိုစဉ် မောင်တင်ဝင်းတို့၊ ကိုအုန်းမြတို့ ရောက်လာကြသည်။

''မောင်ပေါက်ကျော်က အလကားရတာနဲ့ ခူးပြီးလှူတာဘုရား''

"ဟိုး... ဆရာ၊ အလင်္ကာဆိုပေမယ့် လုံ့လဝီရိယလေး တော့ စိုက်ရသေးတယ်၊ နောက်ပြီး လှူချင်စိတ်ကလေးလဲရှိမှ အောင်မြင်တာ"

"အေးပါ မင်း ဝီရိယ၊ မင်း စိတ်သိပါတယ် သူငယ်ချင်း ရာ၊ အလင်္ကာ စတာပါ"

"ဒီကြာပန်းတွေ မလှဘူးလား ဖိုးတင်ဝင်း"

"လှပါ့ မောင်ပေါက်ကျော်"

မောင်ပေါက်ကျော်သည် ဆရာတော်အား ကြာပန်းစည်း ကို ရိုရိုသေသေ ကပ်လိုက်သည်။

"အဲ... အဲ... ကောင်းလိုက်တဲ့ ကြာပန်းတွေ၊ ကဲ... ကဲ... ဟော့... ကိုရင်တစ်ပါး လာစမ်း၊ ဘုရားအိုးထိုးထား လိုက် ကိုရင်၊ ရေလဲစင်အောင်ဆေးဦး"

"တပည့်တော် ဒကာမ ဆေးပေးလိုက်တယ် ဘုရား"

"အေး... အေး... ဒါနဲ့ ဒါနဆိုတာကလဲ ပြုကြရမှာ ပေါက်ကျော်"

"မှန်ပါ့ အရှင်ဘုရား"

"ဒါနဟာ လူ့စည်းစိမ်၊ နတ်စည်းစိမ်၊ ဗြဟ္မာစည်း စိတ်တွေကို မရေမတွက်နိုင်အောင်ကိုပေးတာ၊ အလောင်းတော်

များ ပါရမီဆယ်ပါးကို စတင်ခြင်းဟာ ပထမ ဒါနပါရမီတဲ့၊ ပထမဦးဆုံး ဒါနပါရမီကို စဖြည့်ကြတာ၊ ဒီတော့ သဒ္ဓါဆိုတဲ့ ယုံကြည်မှုကို အားကောင်းကောင်းကြီးထားပြီး သာသနာတွေ့ခိုက် သာသနာတွင်း ကုသိုလ်တွေရအောင် ပြုကြရမှာ"

"မှန်ပါ့ အရှင်ဘုရား"

"ဒါနရဲ့ အကျိုးပေးမှုတွေကို ဒီည ဆွေးနွေးကြတာပေါ့"

"ကောင်းတယ် ဘုရား"

"ဒီလိုကွ အရင်ကတော့ လင်္ကာဒီပကျွန်းပေါ့၊ သီဟဠ ဒီပသီဟိုဠ်ကျွန်းလို့လဲ ခေါ်တယ်၊ အခုတော့ သီရိလင်္ကာနိုင်ငံပေါ့။

"အဲဒီ လင်္ကာဒီပကျွန်း ကမ္ဘောဇရွာမှာ အရှင်မာလယ မထေရ်ဆိုတာ သီတင်းသုံးနေတယ်၊ အဲဒီရွာသား ဒကာတစ်ယောက်ကလည်း ဒီမထေရ်ကို သိပ်ကြည်ညိုတာကိုး၊ ဒါနဲ့ ရေကန်ထဲက ကြာပန်းများကို နုတ်ယူဆွတ်ခူးပြီး လှူဒါန်းသတဲ့"

"ဒါဆို ပေါက်ကျော်လိုပေါ့ ဘုရား"

"အေး... ဟုတ်တုတ်တုတ်ပဲကွ၊ နို့ပေမယ့်လဲ ပေါက်ကျော်က ရိုးထဲကနုတ်တာ၊ ဟိုက ကန်ထဲက"

မှန်ပါ... ဒါဆို တပည့်တော်နဲ့ဆိုရင် ပေါက်တဲ့နေရာ လောက်ပဲကွာမှာ"

"အတူတူပါ ပေါက်ကျော်ရာ၊ ပေါက်တဲ့နေရာ လျှုတာ မှမဟုတ်တာ၊ ကြာပန်းပဲ လှူရတာချည်းဟာ"

"ဒါနဲ့ မထေရ်မြတ်က ကြာပန်းကိုအလှူခံပြီးတော့ စဉ်းစားသတဲ့"

"အင်း... ဘုရားရဲ့ခတ်တော်၊ မွေတော်၊ စွယ်တော်၊ အံတော်၊ ညှပ်ရိုးတော်တို့ကိန်းအောင်းရာ လူ့ပြည်က စေတီတော်၊ ပုထိုးတော်များကို ဖူးမြော်ပူဇော်ရလေပြီ၊ တာဝတိံသာနတ်ပြည်၌ ဆံတော်မြတ်ကိန်းဝပ်ရာ စူဠာမဏိစေတီမြတ်ကို ငါ မဖူးမြင်ရ သေးဘူး၊ ဒီတော့ အခု ဒါယကာလှူတဲ့ ကြာပန်းကို စူဠာမဏိ စေတီတော်ကို သွားရောက်ပူဇော်ရရင် ကောင်းမှာပဲလို့ အကြံဖြစ် သတဲ့"

"ပေါက်ကျော်"

"ဘုရား"

"ငါလည်း တာဝတိံသာ သွားရမလိုပဲ"

"မှန်ပါ့ ကောင်းတယ်ဘုရား၊ ဖိုးတင်ဝင်းလည်း ခေါ်သွားပါ ဘုရား"

"ဟာ... ငါက ဘာလိုက်လုပ်မှာလဲ"

"နဝ်သမီး... နတ်သမီး ဟဲ... ဟဲ"

"ဒီကောင် နောက်ရတယ်လို့"

"ကဲ... ကဲ... မထေရ်ဟာ အဲဒီလို အကြံဖြစ်ပြီးတာနဲ့ ကွေးတဲ့လက် မဆန့်ခင် ဆန့်တဲ့လက်မကွေးခင်ဆိုသလိုပဲ ရဟန္တာတို့ရဲ့ ဈာန်သမာပတ် ဣဒ္ဓိပါဒ်တန်ခိုးတော်နဲ့ စူဠာမဏိ စေတီတော်ရဲ့ မဟာရာမ်အတွင်းကို ချက်ချင်းကြီးပဲ ရောက်သွားသတဲ့၊ ရောက်ရင်ဆိုပဲ ကြာပန်းများကို ကပ်လှူ၊ စေတီကို ဝအောင်ဖူးပြီး စေတီတော်နဲ့ မနီးမဝေး သင့်တင့်တဲ့နေရာမှာ ရဟန္တာဟို့ရဲ့ တင့်တယ်တော်မူခြင်းနဲ့ ထိုင်နေတော်မူတယ်တဲ့"

"ပေါက်ကျော်"

"ဘုရား..."

"အဲဒီလိုအချိန်အတွင်း ဟိုသိကြားမင်းကြီးကလဲ ဥပုသ်နေ့တွေဆိုရင် စူဠာမဏိစေတီကို ပူဇော်မြဲကိုး၊ အခုလဲ ဥပုသ်နေ့

မို့ နတ်မိမယ်တွေ မောင်းမမိဿံ အခြွေအရံတွေနဲ့ လာရောက် ဖူးမြော်တော့ မထေရ်ရောက်နေကြောင်းကို ကြားသိတာကိုး၊ ဒီတော့ သိကြားမင်းက အရှင်မြတ်ထံ သွားရောက်ဖူးမြော်တယ်။

ဒီအခါ မထေရ်က သိကြားမင်းကိုမေးတယ်၊ မေးပုံက...

"ဒါယကာသိကြားမင်း သင်ဟာ ဒီစေတီတော်ကို အမြဲ မပြတ် ဖူးမြော်သလား" လို့မေးတော့ သိကြားမင်းက...

"မှန်ပါ အရှင်မြတ်၊ တစ်လတစ်လမှာ လေးသီတင်း ရှစ်သီတင်းနေ့များ၌ ဥပုသ်နေ့တိုင်း လာရောက်ဖူးမြော်ပါတယ် ဘုရား" လို့ ဖြေတယ်။

"ဒီတော့ အရှင်မြတ်က သာဓု... သာဓုလို့ သာဓုခေါ် လိုက်တယ်။ အဲဒီလိုခေါ်ပြီးနောက် မေးပြန်တယ်၊ နေပါဦး ဒါယကာ သိကြားမင်းရဲ့ နောင်ပွင့်တော်မူမယ့် အရိမေတ္တယျ ဘုရားအလောင်းတော် နတ်သားဟာ ကြီးစွာသော နတ်စည်းစိမ် ချမ်းသာလို ခံစား စံစားရတာနဲ့ မေ့မေ့လျော့လျော့ပဲ နေပါသလား၊ ဒါမှမဟုတ် သိကြားမင်းလိုပဲ ဒီစေတီတော်မြတ်ကို လာရောက် ဖူးမြော်ပါသေးသလားလို့ မေးပြန်တယ်။

သည့်တော့ သိကြားမင်းက "အရှင်ဘုရား၊ အလောင်းတော် နတ်သားဟာလဲ ဒီစေတီကို ဉပုသ်နေ့တိုင်း လာဖူးပါတယ်၊ နတ်စည်းစိမ်နဲ့နေတာ မရှိပါဘူး"

အဲလိုပြောနေတုန်း နတ်သား၊ နတ်သမီးပေါင်းများစွာ ခြံရံပြီး နတ်သားတစ်ပါးရောက်လာတယ်၊ ဒီတော့ မထေရ်က-

"ဒါယကာ သိကြားမင်း နတ်သား နတ်သမီးတွေ အခြံအရံတွေလည်း မနည်းလှဘူး၊ ကြီးကျယ်မြင့်မြတ်တဲ့ ကိုယ်ရောင် ကိုယ်ဝါတွေနဲ့ အခုရောက်လာတာဟာ အလောင်းတော် နတ်သားလား"

လို့မေးတော့ သိကြားက-

"အရှင်မြတ် အလောင်းတော်နတ်သား မဟုတ်သေးပါ လို့ဖြေတယ်"

ဒီအခါ မထေရ်က-

"ဒါယကာရယ် မဟုတ်ဘူးသာပြောရတယ်၊ နတ်စည်းစိမ်ချမ်းသာတွေကလည်း ကြီးမားမြင့်မြတ်လှပါကလား၊ ဒါဟာ ဘယ်လို ကုသိုလ်ကောင်းမှုတွေ လုပ်ခဲ့လို့လဲ"ဟု မေးပြန်တယ်၊

ဒီတော့ သိကြားမင်းက...

"အရှင်မြတ်ဘုရား... ဒီနတ်သားဟာ အခုလို နတ်စည်းစိမ်ချမ်းသာမရခင်က ဟို... လူ့ဘဝတုန်းက မာဂဓတိုင်း၌ ဆင်းရဲသားပါ၊ တုဏှုဝါဟခေါ်တဲ့ အပ်ချုပ်အသက်မွေးရသူပါ၊ ဒါန၊ သီလ၊ ဘာဝနာတို့ကို စွန့်ကြဲလှူဒါန်း ဆောက်တည်ကျင့်သုံး ပွားများရတယ်လို့ကို မရှိပါဘူး၊ နို့ပေမယ့် သူက လူတစ်မျိုးဘုရား နေထွက်က နေဝင်တိုင်အောင် သူ အပ်ချုပ်လို့ရတဲ့ငွေကို လှူဒါန်းတယ်ဘုရား၊ နေဝင်က နံနက်တိုင်အောင် အပ်ချုပ်လို့ရတဲ့ငွေကိုသာ သားမယားတို့ကိုကျွေးမွေး၊ သူစားတာ ဘုရား။ အဲဒီလိုနေလာတာ သေတဲ့အခါကျတော့ အဲဒီကောင်းမှုနဲ့ပဲ ဒီတာဝတိံသာ နတ်ဘုံမှာ တုဏှုဝါယဆိုတဲ့အမည်နဲ့ နတ်သားဖြစ်လာတာ၊ အခု အရှင်မြင်တဲ့အတိုင်းပါပဲ၊ ဒီနတ်သားရဲ့ နတ်စည်းစိမ်တွေ ဘယ်ကလောက် ကြီးကျယ်မြင့်မားတယ်ဆိုတာ အရှင်မြတ် အမြင်ပါပဲ"

"အင်း... ဒါယကာ သိကြားရေ၊ ဒါနရဲ့အကျိုးဆိုတာ နည်းတယ်ရယ်မဟုတ်ဘူးနော်၊ စည်းစိမ်ချမ်းသာ များစွာရတာပဲ"

အဲဒီလိုပြောနေတုန်း နတ်သားတစ်ယောက် ရောက်လာပြန်တယ်၊ သူလဲ အခြံအရံတွေ မြောက်မြားစွာနဲ့ပဲ၊ ဒီတော့မထေရ်

ကလည်း ဘယ်လိုလဲ သိကြားမင်း၊ အခုလာတဲ့ နတ်သားက ကော...

"အရှင်မြတ် ဒီနတ်သားလည်း အလောင်းတော် နတ်သား မဟုတ်သေးပါဘူး၊ ဒီသာဝတ္တိသာကပဲ၊ ဟရိတာသ နတ်သားပါ"

"ဒါဆိုရင် အခုလောက်ကြီးကျယ်တဲ့ နတ်စည်းစိမ်ခံစားရတဲ့ ကောင်းမှုကကောလို့ မေးရော သိကြားမင်းက...

"သူက လူ့ပြည်တုန်းက ဟရိတာသရွာမှာ ဆင်းရဲသားပဲ၊ ဒါနဆိုတာလဲ ကြီးကြီးကျယ်ကျယ် ပြုနိုင်တာမဟုတ်ပါဘူး၊ သီလတို့ ဘာဝနာတို့ဆိုတာလဲ ရံဖန်ရံခါသာ လုပ်နိုင်တာပါ။ အဲဒီ ဒါန၊ သီလ၊ ဘာဝနာတွေရဲ့ကောင်းမှုကြောင့် အခုလို စည်းစိမ်ချမ်းသာကို ရတာမဟုတ်ပါဘူး၊ စားသောက်ရန် ချက်ပြုတ်တဲ့ ထမင်းက မြတ်ထွတ်လှတဲ့ထမင်းကို အဦးအဖျားကိုယူ၍ တစ်ဝက်သောထမင်းကို မြတ်စွာဘုရားကိုရည်စူးကာ ဆွမ်းတင်လှူပါတယ်။ တစ်ဝက်ကို သံဃာတော်တို့အား ပိဏ္ဍပါတ်ဆွမ်း လောင်းပါတယ်။ အဲဒါ သူ အသက်ရှင်သရွေ့ လှူပါတယ်ဘုရား၊ အဲဒီကောင်းမှုကြောင့် သူသေတော့ တာဝတိံသာ နတ်ပြည်မှာ

ဟာရိတာသ နက်သားရယ်လို့ လာဖြစ်ပါတယ်။ သူ့စည်းစိမ်ကြီး မားပုံကတော့ အခု အရှင်မြင်တဲ့အတိုင်းပါပဲဘုရား"

အဲဒီလိုပြောပြကော့ အရှင်မလေယမထေရ်က သာဓုခေါ် ပြန်တယ်။

အဲဒီအချိန်အတွင်း စည်းစိမ်အကြီးအကျယ်နဲ့ နက်သား တစ်ယောက် ရောက်လာပြန်တယ်။

ဒီတော့ အရှင်မြတ်က အလောင်းတော် နက်သားလား လို့ မေးပြန်တယ်၊ သိကြားက...

"မဟုတ်ပါ ဘုရား၊ သူက သဒ္ဒါတိဿ နက်သားပါ၊ သူက ဒီကိုမရောက်ခင်က သီဟိုဠ်ကျွန်းမှ ဒုဋ္ဌဂါမဏီမင်းကြီးရဲ့ ညီတော်အရင်းအချာ ဖြစ်ပါတယ်၊ ဒုဋ္ဌဂါမဏီမင်းကြီး တည် တော်မူတဲ့ စေတီတော်ကို အလွန်ကြည်ညိုတဲ့ သဒ္ဒါတရားရှိတာနဲ့ အမြဲတမ်း ရှိခိုးပူဇော်ခြင်းကို ပြုပါတယ်၊ မပြတ်မလပ် ကြည်ညို ခြင်းကိုပြုပါတယ်၊ အဲဒီ ကြည်ညိုတဲ့စိတ်ကြောင့် လူ့ပြည်က စုတေတော့ ဒီတာဝတိံသာနက်ဘုံမှာ သဒ္ဒါတိဿ နက်သားရယ် လို့ လာဖြစ်တာပါဘုရား"

လို့လျှောက်တော့ အရှင်က "အေးလေ စေတီတော်မြတ်ကို ရှိခိုးပူဇော်တဲ့ ဂန္ဓယူဇာကုသိုလ်ဆိုတာ များလှတဲ့ စည်းစိမ်ဥစ္စာကို ခံစားရတယ်နော်" ဟု သိကြားမင်းကို ပြောနေတုန်းမှာပဲ နတ်သားတစ်ယောက် ရောက်လာပြန်တယ်။ ဒီတော့ အရှင်က...

"သိကြားမင်းရယ် အခုနတ်သားက အရင်ရောက်လာတဲ့ နတ်သားတွေနဲ့ မတူပါလား၊ အဿဝဏီ ဘရဏီစတဲ့ အားလုံးသော နက္ခတ်အပေါင်းတို့ ခြံရံထားတဲ့ လမင်းရဲ့တင့်တယ်ခြင်းကို ထွန်းလင်းတောက်ပတဲ့ ကိုယ်ရောင် အသရေနဲ့ ပြည့်စုံပါကလား၊ နတ်သား၊ နတ်သမီးတွေက အရင်နတ်တွေထက် များလိုက်တာ၊ ဒါဟာ အလောင်းတော် နတ်သားလားလို့မေးတော့"

သိကြားမင်းက "မဟုတ်သေးဘူး ဘုရား၊ ဒီနတ်သားက ဒုဋ္ဌဂါမဏီ အဘယနတ်သား ဖြစ်ပါတယ်၊ ဒီနတ်သားက လူ့ဘဝတုန်းက သီဟိုဠ်မှာ ဒုဋ္ဌဂါမဏီအဘယ မင်းကြီးရယ်လို့ ထင်ရှားပါတယ်၊ ဒီတုန်းက များစွာသော ကျောင်းအဆောက်အအုံ တွေလှူတယ်၊ များစွာသော စေတီပုထိုးတို့ကို တည်ထားကိုးကွယ်တယ်၊ အဲဒီကျောင်းအလှူ စေတီအလှူတို့ကြောင့်လည်း ဒီစည်းစိမ်ကိုရတာ မဟုတ်ပါဘူး၊ စေတီတော်မြတ်များ၌ အမိုက်အမှောင်မှကင်းစေခြင်းငှာ ဆီမီးတို့ကို မပြတ်ထွန်းညှိ လှူဒါန်းပူဇော်ပါ

တယ်၊ အဲဒီ ဆီမီးပူဇော်တဲ့ ဘုန်းကံကြောင့်သာ အခုလို စည်းစိမ်ကိုရတာပါ"

မသေရှိက "သြော်... စေတီမှာ ဆီမီးပူဇော်ရတဲ့ အကျိုးဟာ ကြီးကျယ်မြင့်မြတ်လှပါကလား" ဆိုပြီး သာခုခေါ်တော်မူတယ်။

ဒီလိုပဲ စကားမဆုံးသေးခင်မှာ နတ်သားတစ်ပါး ရောက်လာပြန်တယ်၊ ဒီနတ်သားရဲ့ စည်းစိမ်ကလည်း ကြီးတာကိုး၊ ဒီတော့ အရှင်က...

"သိကြားမင်းရယ် အခုနတ်သားက အရင်နတ်သားတွေနဲ့မတူပါလား၊ ရွှေတောင်၊ ငွေတောင်၊ ဖန်တောင်၊ မှန်တောင်တို့ဖြင့် ခြံရံထားတဲ့ ပတ္တမြားတောင်ထွတ်ကြီးလို၊ တောသုံးတောင်ကို အစိုးရတဲ့ သားရဲ့အပေါင်းတို့ညွတ်တွားရာ သီဟရာဇာခြင်္သေ့မင်းရဲ့ ရဲရင့်သော ဣန္ဒြေလိုကြီးကျယ်မြင့်မြတ်တဲ့ ဣန္ဒြေအသရေကိုယ်ရောင်ထွန်းပြောင်တောက်ပသောကြောင့် မရေတွက်နိုင်လောက်အောင် လှပတင့်တယ်တယ်၊ ဝဲယာ၌နှစ်ယောက်စီ ခြံရံထားတဲ့ နတ်သမီးကညာ နောက်ပါ အခြံအရံတွေကလည်း မရေမတွက်နိုင်အောင်ပဲ၊ ဒီစည်းစိမ်ရှင်ဟာ အလောင်းတော် နတ်သားများလား"

"မှန်လှပါ တုသိတာနတ်ဘုံတွင် နတ်၏စည်းစိမ်ချမ်းကို ခံစားနေတဲ့ အရိမေတ္တေယျ ဘုရားအလောင်း နတ်သားပါ"

"ဒီတော့ အရှင်က အလောင်းတော်နတ်သားနဲ့ အလာပသလ္လာပ စတဲ့ သင့်လျော်တဲ့ တရားစကားများကိုပြောပြီး သိကြားမင်းအား မေးပြန်တော့တယ်။

"နတ်သားတို့ရဲ့ ကုသိုလ်အကျိုးပေးတော့ သိရပါပြီ၊ အခု အလောင်းတော်နတ်သားရဲ့ လက်ယာရံဖြစ်တဲ့ နတ်သမီးကညာဟာ ပြိုးပြိုးပျက်ပျက်သော မကိုဋ်သရဖူ၊ နားတောင်း၊ လက်စွပ်၊ လက်ကောက်၊ ဘယက်တန်ဆာတို့ဟာ ရှုမငြီးနိုင်အောင် ပြိုးပြိုးပျက်မျှ အရောင်ထွန်းလင်း တောက်ပခဲ့ကြတာ ဘယ်ကုသိုလ်ကံကြောင့်လဲ"လို့ မေးတော့-

သိကြားမင်းက "ဒီနတ်သမီးက အလောင်းတော်နတ်သားရဲ့ လက်ယာရံနတ်သမီးမဖြစ်မီ လူ့ဘုံမှာတုန်းက ကုမ္ဘကာရရွာက ဆင်းရဲစွာသော အိုးထိန်းသည်ရဲ့သမီးလေးပါ၊ ဒီတုန်းက ဥစ္စာစီးပွားများ ကုံလုံကြွယ်ဝ သူတို့ရဲ့ သမီးများက လှပစွာဆင်ယင် ဝတ်စားပြီး ဈေး၌ရောင်းချတဲ့ အဆင်းအနံ့နဲ့ပြည့်စုံတဲ့ ပန်းတွေကို ဝယ်ယူပြီး စေတီတော်များမှာ နေ့စဉ် တင်လှူခြင်းကို ပြုကြတယ် ဘုရား၊ သူတို့လိုလှူချင်တဲ့ သဒ္ဒါပသန္နဖြစ်တာနဲ့

မိဘတို့ထံ ပန်းဖိုးတောင်းရာ မိဘတို့က 'သမီး တို့မှာ အိုးထိန်းမှု လုပ်ကာ စားသောက်ရပါတယ်၊ ဘယ်မှာ ပန်းဝယ်ရန် အသပြာ ပေးနိုင်မလဲ၊ သူများနဲ့တူ လှူချင်စိတ်ရှိရင်ဖြင့် တို့ခြံစည်းရိုး၌ အလေ့ကျပေါက်တဲ့ တောပန်း အနီ၊ အဝါ၊ အစိမ်း၊ အဖြူ အမျိုးမျိုး တွေရှိပါတယ်၊ ဆွတ်ခူးပြီး အများလိုပဲ တင်လိုက်ပါ၊ ကုသိုလ်ရတာချည်းပဲ သမီးရယ်လို့ ဖျောင်းဖျပြောဆိုတော့ ခြံစည်း ရိုးက အလေ့ကျပေါက်တဲ့ ပန်းအမျိုးမျိုးကို အဖိုးထိုက်တန်တဲ့ ပန်းတို့ကဲ့သို့ ကြိုးသီတံတို့ဖြင့် သီကာပြင်ဆင်၍ စေတီမှာ ကပ်လှူ ပူဇော်တယ်၊ ဒီလို နေ့စဉ် နှစ်လရှည်ကြာ တင်လှူခြင်းကို ပြုတဲ့ ကောင်းမှုကြောင့် သေတဲ့အခါ အခု အရှင်မြင်သလို ကိုယ်ရောင် အသရေ ပြည့်စုံတဲ့ အလောင်းတော်နတ်သားရဲ့ လက်ယာရံ နတ်သမီးကညာ ဖြစ်လာပါတယ် အရှင်ဘုရား"

"ဒီနတ်သမီးက ဒီစည်းစိမ်ချမ်းသာမျှကိုသာ ရတယ် အောက်မေ့တော်မမူပါနဲ့၊ နောင်သောအခါ အလောင်းတော်နတ် သားဟာ ဘုံသုံးပါးတွင် ဘုရားစင်စစ် ထင်ရှားစွာဖြစ်တော်မူသော အခါ ဒီလက်ယာရံ နတ်ကညာက ဘိက္ခုနီ ရဟန္တာမဖြစ်၍ နိဗ္ဗာန်ရွှေပြည်မြတ်ကို နောက်တော်က အတူတကွ လိုက်ပါရမှာ ပါ အရှင်ဘုရားလို့ လျှောက်သတဲ့"

အရှင်က သာဓုခေါ်တယ်၊ ခေါ်ပြီးတော့မှ လက်ဝဲရံ နတ်သမီးကညာရဲ့အကြောင်းကို မေးပြန်တယ်။

"ဒါယကာ သိကြားမင်းရယ် လက်ဝဲရံ နတ်သမီးနှစ်ယောက်အနက် တစ်ယောက်ကဖြင့် တခြားနတ်သမီးတွေနဲ့မတူဘဲ ထူးကဲစွာ လှပတင့်တယ်လှချေကလား။

"ပတ္တမြားညိုရောင် စီခြယ်ထားတဲ့ မကိုဋ်သရဖူ၊ တိမ်ပြာညိုရောင်လို အဝတ်အစားတွေနဲ့၊ နောက်ပြီး အခက်ခက် အမွှာမွှာ ဝဲယာရှေ့နောက် အရောင်အဝါတွေကလဲ တောက်ပြောင်နေတာပဲကိုး၊ ကြည့်မဝ ရှုမဝနဲ့ကိုယ်ရှိတာပဲ၊ အဲဒါ ဘယ်ကုသိုလ်ကြောင့်လဲ သိကြားမင်းရယ်"

"အရှင်မြတ်က မေးတော့ သိကြားမင်းကလဲ ဖြေတယ်ကိုပေါက်ကျော်"

"မှန်ပါ အရှင်ဘုရား၊ အံ့စရာချည်းပဲဘုရား"

"အေး... ဟုတ်တယ်၊ အဲလိုမေးတော့ သိကြားမင်းကဖြေတယ်"

"အရှင်မြတ် ဒီနတ်သမီးကလဲ လူ့ဘဝမှာတုန်းက ဆင်းရဲသူလေးပါ၊ ဆင်းရဲလိုက်တာမှ လက်ာဒီပကျွန်း (သီရိ

လက်နိုင်ငံ)မှ သဘောဆိပ်မှာ ခေါင်းရွက်ဗျပ်ထိုး မှန့်ပဲသား ရေစာ ရောင်းချစားသောက်ရတဲ့ သူလေးပါ။

"အဲ... ဘုရား ဆိုပါတော့၊ ဒီတုန်းက နာဂဒီပသဘော ဆိပ်မှာတည်ရှိတဲ့ စေတီတော်မြတ်ကို သူက သိပ်ကြည်ညိုတာကိုး။

"သူ့ကိုယ်မှာကြည့်တော့လဲ ချွတ်လှူစရာရယ်လို့ ဘာ တစ်ခုမျှ ရှိတာမှမဟုတ်တာ၊ တစ်ခါ လှူကလဲ သိပ်လှူချင်၊ သိပ်ကြည်ညိုနေတော့ အဲဒီ အနီးအနားက ကန်ထဲမှာရှိတဲ့ ကြာညို ပန်းတွေ ဆင်းခူးပြီး ရွှင်လန်းဝမ်းမြောက်စွာနဲ့ ကြာညိုပန်းတွေ လှူရှာပါတယ်။

"အဲဒီကောင်းမှုကြောင့် အခုလို နတ်စည်းစိမ်တွေခံစား ရတာ ဘုရား။

"အရှင်မြတ် သူ့ကြာညိုပန်းလှူတဲ့ ကုသိုလ်အကျိုး က ဒီနတ်စည်းစိမ်လောက်ရင် မဟုတ်ဘူးနော်၊ အလောင်းတော် မြတ် သဗ္ဗညုတဉာဏ်ကြီးရလို့ ဘုရားဖြစ်ပြီး နိဗ္ဗာန်ကြွတဲ့အခါ နောက်တော်ပါးက ထက်ကြပ်မကွာ ဘိက္ခုနီမအဖြစ်နဲ့ နိဗ္ဗာန်အထိ လိုက်ရမယ့် ကုသိုလ်ဘုရား"

"သာဓု... သာဓု... သာဓုပါပဲ သိကြားမင်းရယ်၊ အခု အသင် ဒါယကာသိကြားမင်းကြီး ရှင်းပြလို့ အလောင်းတော်

ရဲ့လက်ယာရံ နတ်သမီးတစ်ဦးနဲ့ လက်ဝဲရံ နတ်သမီးတစ်ဦးစီရဲ့ ရှေးကောင်းမှုအကျိုးကိုတော့ သိရပေပြီ၊ ကျန်တဲ့ လက်ယာရံနတ်သမီးတစ်ဦးနဲ့ လက်ဝဲရံ နတ်သမီးတစ်ဦးစီတို့ရဲ့ ကောင်းမှုအကြောင်းလဲ လျှောက်ကြားပါဦး။

"ကျန်နှစ်ပါးအနက် ဟိုဘက်က လက်ယာရံနတ်သမီးကဖြင့် တခြားနတ်သမီးတွေနဲ့ မတူဘူး၊ ပတ္တမြားနီတွေနဲ့ စီခြယ်ထားတဲ့ မကိုဋ်သရဖူဆောင်းလို့၊ ဇမ္ဗူရာဇ်ရွှေစင် အရောင်အသွေးလို နီမြန်းတဲ့ အဝတ်အစားတွေ ဆင်ယင်လို့ပါလား၊ သူ့ကုသိုလ်ကံကောလို့ မေးတယ်"

"ဒီတော့ သိကြားမင်းက...

"အရှင်ဘုရား၊ ဒီနတ်သမီးကလဲ လူ့ဘဝတုန်းက ဆင်းရဲသူလေးပါ၊ အခု စည်းစိမ်ကိုရတာကလဲ ဒါန၊ သီလ၊ ဘာဝနာတွေကို ကျင့်သုံးလွန်းလို့ ရတာလဲမဟုတ်ပါဘူး။

"အခု စည်းစိမ်ရတာက စေတီတစ်ဆူမှာ ဝါရွှေတဲ့အဆင်းရှိတဲ့ မဟာလှေကားပန်းကို လျှူဒါန်းပူဇော်ခဲ့ပါတယ်၊ အဲဒီ ကုသိုလ်ကြောင့် ဒီစည်းစိမ်ကိုရတာပါ၊ သူ့ကုသိုလ်က ဒီနတ် စည်းစိမ်လောက် မကဘူးဘုရား၊ နိဗ္ဗာန်ရောက်တယ်အထိ အကျိုးပေးမှာ ဘုရား"

"သာဓု... သာဓု... သာဓုပါပဲ သိကြားမင်းရယ်"

"ဟို... ကျွန်တော့် လက်ဝဲရံနတ်သမီးကလဲ တင့်တယ်လှပါတယ်၊ တခြား နတ်သမီးတွေနဲ့လဲ မတူဘူး။

"ကြည့်ပါဦးတဲ့ သိကြားမင်းရယ်၊ ဇမ္ဗူနဒ၊ နာရဏီ သွန်းသစ်ဇ ရွှေရည်တွေလို ဆောင်းထားတဲ့ မကိုဋ်၊ ဝတ်ဆင်ထားတဲ့ အပတ်တွေဟာ ရွှန်းရွှန်းဝေတဲ့ ရွှေရောင်တွေနဲ့ တင့်တယ်လှပလှပါတယ်၊ အဲဒီကောင်းမှုကကောလို့ မေးပြန်တယ်"

မေးတော့ သိကြားမင်းက ဖြေပြန်တယ်။

"အရှင်မြတ် ဒီနတ်သမီးကလဲ အရင် လူ့ဘဝတုန်းက ကဿပရွာမှာ တောင်သူလယ်လုပ်နဲ့ အသက်မွေးရသူလေးပဲ၊ ဒါနမှု၊ သီလမှု၊ ဘာဝနာမှုတွေကိုလဲ လွတ်ပြီးလုပ်တာမဟုတ်ပါဘူး၊ ဒီကောင်းမှုကိုရတဲ့ ကုသိုလ်က ရွှေအဆင်းနဲ့တူတဲ့ အဆင်းရှိတဲ့ ပန်းတွေကိုခူး၊ မကိုဋ်သရဖူလို နှီး၊ဝါး စတဲ့ အခွေတွေကိုလည်း ပန်းတွေ အဆင့်ဆင့်စိုက်ဆောက်ပြီး စေတီတော်မြတ်အား ယုံယုံကြည်ကြည်နဲ့ လှူဒါန်းတယ်ဘုရား။

"အဲဒီကောင်းမှုက အခုလို အကျိုးပေးတာ၊ ဒီကုသိုလ်က ဒီလောက်နဲ့ရပ်နေမှာ မဟုတ်ပါဘူး၊ အလောင်းတော်မြတ်

ဘုရားဖြစ်၍ နိဗ္ဗာန်ကြွတဲ့အခါ သူကလဲ ဘိက္ခုနီမအဖြစ်နဲ့ နိဗ္ဗာန်ကူးနိုင်တဲ့အထိ အကျိုးပေးမှာပါ ဘုရား"

အဲလို သိကြားမင်းက လျှောက်တော့ မလယမထေရ်က သာဓုခေါ်တော်မူတယ်။

"ကဲ... ပေါက်ကျော် နင် အားမကျဘူးလား"

"အရှင့်နှယ် အားကျလိုက်တာမှ တပည့်တော့ မရှင်မနောက်နိုင်ဘဲ ငြိမ့်မှတ်နေတာပဲကြည့်၊ လှူဖွယ်ဝတ္ထုတန်ဖိုးထက် လှူသူရဲ့သဒ္ဓါ၊ ကြည်ညိုမှုက အရေးကြီးပုံတွေကို စဉ်းစားမိနေတယ် ဘုရား"

"အေး... ဟုတ်တယ်၊ ကံ-ကံရဲ့အကျိုးကို ယုံကြည်ဖို့က အဓိကအချက်ပဲ ပေါက်ကျော်"

"မှန်ပါဘုရား နောက် ဘာမေးသေးလဲ ဘုရား"

"အဲ... နောက်တော့ အရှင်မြတ်က အလောင်းတော်နတ်သားကိုပဲ တိုက်ရိုက်မေးတော့တယ်၊ မထေရ်မြတ် မေးတာက ဒီလိုတဲ့ ပေါက်ကျော်"

"အမိန့်ရှိပါ အရှင်ဘုရား"

"အလောင်းတော်နတ်သားရယ်၊ အခု လူတွေဟာ သင်နတ်သားကိုပဲ မျှော်ခေါ်တမ်းတပြီး အရမေတ္တေယျဘုရားရှင်ပွင့်

တဲ့အခါ အရင်ဆုံး ဖူးတွေ့ရပြီး မဂ်ဖိုလ်နိဗ္ဗာန် ချမ်းသာတွေ ခံစားနိုင်အောင် ဒါန၊ သီလ၊ ဘာဝနာတွေ လုပ်နေကြတယ်။

"ဒီတော့ သူတို့ဆုတောင်းသလို ရရှိအောင် အသင်က ပြုနိုင်ပါ့မလားလို့ မထေရ်ကမေးရော မေးတော အလောင်းတော် နတ်သားက ဒီလို လျှောက်ထားတယ်။

"အရှင်မြတ်...အရှင်မြတ် ဒီကနေ လူ့ပြည်ပြန်ကြွတဲ့ အခါ တပည့်တော် မှာလိုက်ကြောင်းကို ပြန်လည်ဟောကြားပြ ပါ ဘုရား။

"တပည့်တော် သဗ္ဗညုတ ရွှေဉာဏ်တော်ကြီးရလို့ ဘုရားစင်စစ် ကေန်ဖြစ်တဲ့အခါမှာ...

"မြင့်မြင့်သမျှသော သတ္တဝါတွေကို နိဗ္ဗာန်ဆိုတဲ့ ကမ်း တစ်ဖက်ကို တင်ပို့ဆယ်ယူနိုင်မယ် မဟုတ်ပါ။

"ဒါနလုပ်သူတွေမှာလဲ အဲ... လူ့ဘုံမှာ ဖြစ်လိုတယ်၊ နတ်ဘုံမှာ ဖြစ်လိုတယ်၊ ဗြဟ္မာဘုံမှာ ဖြစ်လိုတယ်လို့တောင့်တ ပြီး လှူတဲ့သူတွေကို မကယ်တင်နိုင်ဘူး ဘုရား။

"အဲ... တဏှာ၊ ရာဂ၊ လောဘ၊ ဒေါသတို့ထူထပ် လွန်းတဲ့ သံသရာမှာ ကျင်လည်ရတာကို ငြီးငွေ့စက်ဆုပ်ပြီး မဂ်ဖိုလ်နိဗ္ဗာန်ကို ရည်သန်တောင့်တပြီး လှူတန်းကြတဲ့ အလှူ

ရှင်တွေကိုသာ တပည့်တော်အရင် ပွင့်ထွန်းတော်မူတဲ့ နောင်တော့် နောင်တော်ဘုရားတွေရဲ့ အလိုကျပဲ တပည့်တော် နိဗ္ဗာန်ရွှေပြည်ကို တင်ပို့နိုင်မှာပါ ဘုရား၊ ဒါကြောင့်မို့ အရှင်မြတ်က လူ့ပြည်ရောက်တဲ့အခါ အလေးဂရုစိုက်ပြီး နှိုးဆော်ပေးပါဘုရား။

"အရှင်မြတ်ဘုရား သီလဆောက်တည်တဲ့ သူတွေကိုလဲ လူ့ဘုံ၊ နတ်ဘုံ၊ ဗြဟ္မာ့ဘုံတို့ကို မစုံမက်ကြဘဲ အရိမေတ္တေယျဘုရားရှင်နဲ့အတူ နိဗ္ဗာန်ရွှေပြည်ကို လိုက်ချင်ကြရင် ဘုံသုံးပါးကို ငြီးငွေ့စက်ဆုပ်ပြီး နိဗ္ဗာန်မဂ်ဖိုလ်ကို ရည်သန်တောင့်တပြီး သီလဆောက်တည်ကြဖို့ အရှင်မြတ်က နှိုးဆော်ပေးပါ။

"နောက်ပြီး သတ္တဝါတို့ကိုလဲ မေ့မလျော့ဖို့ တပည့်တော် မှာကြောင်းကိုလဲ အမိန့်ရှိပေးပါ။

"ဒါ့ပြင်လဲ သာသနာတော်ကို မဖျက်ဆီးဖို့နဲ့ ပဉ္စာနန္တရိယကံ မထိုက်အောင်နေဖို့ကိုလဲ အမိန့်ရှိပါ။

"တပည့်တော် ဘုရားဖြစ်တဲ့အခါ သာသနာတော်ကို ဖျက်ဆီးသူတွေကို မကယ်တင်နိုင်ပါ၊ သူတို့ အပါယ်ငရဲ ဆင်းရဲမှာ ခံစားနေရပါလိမ့်မယ်၊ ပဉ္စာနန္တရိယကံထိုက်သူတွေလဲ ဒီလိုပဲ အပါယ်ငရဲမှာ ခံနေကြရပါလိမ့်မယ်၊ ဒါကြောင့်မို့ အရှင်မြတ်က အမေ အဖေကိုသတ်ခြင်း၊ ရဟန္တာ အရှင်မြတ်ကိုသတ်ခြင်း၊

ဘုရားရှင်ကို သွေးစိမ်းတည်အောင်ပြုခြင်း၊ ဟို... ဒေဝဒတ်တို့ ကောကာလိကတို့လို ဘုရားကိုပြိုင်ပြီး ဘုရားလုပ်မယ်ဆိုပြီးသံဃာ ကိုသင်းခွဲခြင်းဆိုတဲ့ အနန္တရိယကံများကို စိတ်နဲ့ရော၊ နှုတ်နဲ့ရော၊ ကိုယ်နဲ့ရော မလုပ်ကြဖို့ အမိန့်ရှိလိုက်ပါ ဘုရား။

"ဒီပြင်လဲ ဘုရားရှင်ရဲ့ ဓာတ်တော်၊ မွေတော်၊ စွယ်တော်၊ ဆံတော်၊ ညှပ်ရိုးတော်တို့ကို ဌာပနာထားတဲ့ ရုပ်ပွားတော်၊ ဆင်းတုတော်၊ စေတီတော်တို့ကိုလဲ ဖျက်ဆီးတဲ့သူတွေကိုလဲ တပည့်တော် မကယ်တင်နိုင်ပါ၊ သူတို့က တပည့်တော် ဘုရား ဖြစ်တဲ့အခါ အပါယ်ငရဲမှာ ခံရတုန်းရှိဦးမှာ ဘုရား၊ ဒါကြောင့် မို့ မဖျက်ဆီးဘဲ ရှိသေဆည်းကပ်ကြပါလို့ အမိန့်ရှိပါဘုရား။

"ဒီပြင်လဲ ရှေးရှေးသော နောင်တော်ဘုရားတို့ဟာ မဟာ ဗောဓိညောင်နန်းကို အမှီပြုပြီး သဗ္ဗညုတရွှေဉာဏ်တော်ကြီးကို ရပြီး ဘုရားအဖြစ်သို့ ရောက်တော်မူကြတာ ဘုရား၊ ဒါကြောင့် မို့ ဗောဓိညောင်က ဆက်နွယ် ဆင်းသက်လာတဲ့ ဗောဓိညောင်ပင် အထိကရကြီးများကိုလဲ မရိုမသေ၊ မလေးမစား၊ ဖျက်ဆီးတဲ့သူ တွေဟာ တပည့်တော် ဘုရားဖြစ်တဲ့အခါ အပါယ်ငရဲမှာ ခံရတုန်း ရှိကြမှာ ဘုရား၊ သူတို့ကိုလဲ တပည့်တော် မကယ်တင်နိုင်ဘူး ဘုရား။

"ဒီပြင်လဲ ဘုရားရှင်နဲ့တကွ တပည့်သား သံဃာတော်တွေ သီလ၊ သမာဓိဂုဏ်ရှိကြတဲ့ လူယောကျ်ား၊ လူမိန်းမတွေ၊ ဘုန်းတောင်းယာစကာတွေကိုလဲ သူတို့အလှူခံတဲ့အခါ ကိုယ့်မှာ လှူစရာ တန်းစရာရှိပါလျက်ကယ်နဲ့ မရှိဘူး၊ ဘာဖူးနဲ့မစ္ဆရိယ တရား မပွားကြဖို့လဲ အမိန့်ရှိပါဘုရား၊ သူတို့လဲ အပါယ်ငရဲမှာ ခံနေကြဆဲဦးမှာ ဘုရား။

"ဒီပြင်လဲ မုသာဝါဒကံ ထိုက်သူတွေလဲ ဒီလိုပဲဘုရား၊ မမှန်မကန် ပြောဆိုတဲ့ကံကြောင့် အပါယ်ငရဲမှာ ခံနေကြဆဲဖြစ်မှာ၊ သူတို့ကိုလဲ မကယ်တင်နိုင်ပါဘုရား၊ ဒါကြောင့်မို့ မုသား မပြောဆိုဖို့ အရှင်မြတ်က သတိပေး ဟောကြားပါဘုရား"

"ပေါက်ကျော်"

"ဘုရား"

"အဲလို အလောင်းတော်နတ်သားက အချက် ၁၀ ချက်မှာတာကို မလယမထေရ် မှတ်လာပြီး သိကြားမင်းနဲ့ အလောင်းတော် နတ်သားတို့ကို နှုတ်ဆက်ပြီး လူ့ပြည်ပြန်ကြွလာရော"

"မှန်ပါ အရှင်ဘုရား"

"အဲ မထေရ်က လူပြည်ပြန်ရောက်တော့လဲ အလောင်းတော်နတ်သား မှာတဲ့အချက်တွေကို ရှောင်ကြဉ်ကြဖို့ သတိပေးဟောကြားသတဲ့။

"အဲဒါကြောင့်မို့ မောင်ပေါက်ကျော်တို့လဲ ဒုစရိုက်မှန်သမျှ ရှောက်ကြဉ်ပြီး သုစရိုက်တရားတွေကို ကိုယ့်သန္တာန်မှာ တစ်နေ့ကခြား တိုးပွားနေအောင် အားထုတ်ကြပေတော့၊ ဒါမှလဲ အရိမေတ္တယျ ဘုရားသခင်ပွင့်တဲ့အခါ မင်္ဂဖိုလ်ချမ်းသာတွေရရှိပြီး နိဗ္ဗာန်ရွှေပြည်ကို ရောက်ကြရမှာကိုး..."

"မှန်ပါ အရှင်ဘုရား"

"ကဲ... ဒီည တော်ကြဦးစို့ ပေါက်ကျော်"

"သာဓု... သာဓု... သာဓုပါ အရှင်ဘုရား"

* * *

# ဥပုသ်သည် ဖတ်စရာ

## (၆)

"အရှင်ဘုရား"

"ဆို... ပေါက်ကျော်"

"တပည့်တော် သိချင်စရာလေးရှိလို့ ဘုရား"

"အံမာ ကိုပေါက်ကျော်က ဘာတွေများ သိချင်လို့လဲ၊ စပါးဈေး၊ ဆန်ဈေးလား၊ ငါးဈေး၊ ဖားဈေးလား"

"နေစမ်းပါ မောင်တင်ဝင်းရာ၊ အဲဒါဆို ဆရာတော့် မေးပါ့မလား၊ ဆရာတော်က လူမှုရေးကိစ္စတွေ စိတ်ဝင်စားတာမှ မဟုတ်တာ"

"ဟုတ်ပါ့ဗျာ"

"ကဲ... ကဲ... ပေါက်ကျော်၊ မင်းသိချင်တာကို မေးစမ်း"

"တပည့်တော်က ခင်ပွန်းကြီးဆယ်ပါးကို ပြစ်မှားတယ် ဆိုတာကို သိချင်လို့ ဘုရား"

"ဪ... ဒါလား၊ သိရစေမယ်ဗျာ"

ဥပုသ်နေ့တစ်နေ့၏ ညဘက်ဖြစ်သည်။ ရွာဦးကျောင်း ဆရာတော်၏ ဂေါပကတပည့်များ ဥပုသ်နေ့ညမို့ ကျောင်းလာ အိပ်တုန်း သိချင်တာလေးများ မေးခြင်းဖြစ်သည်။

"ကဲ... ကိုပေါက်ကျော် နားထောင်ကြည့်၊ မဃဒေဝ လင်္ကာမှာ ပါတဲ့အတိုင်း ရွတ်ပြမယ်"

"မှန်ပါ အရှင်ဘုရား"

"အပြစ်ကင်းစွာ၊ နိပ္ပရာဓ၊ ဒေါသမဲ့ငြား၊ သူမြတ်များ အား၊ ပြစ်မှားတုံထ၊ မိုက်ပေါ်လကို၊ စိတ်ကငြူစူ၊ ပစ်သောမြူ သည်၊ ပစ်သူသို့သာ၊ ကျရောက်လာသို့၊ မှန်စွာအပြီး၊ နောက် စီးလျက်၊ မြေကြီးမျိုရှောင်း၊ မိကျောင်းသစ်ကျား၊ ဖမ်းစားဘီလူး၊ ရေကူးလှေမှောက်၊ စိတ်နောက်သွေးအန်၊ စက်ပုံမိုးကြိုး၊ ပြစ်ရှစ် မျိုးနှင့်တဲ့ မောင်ပေါက်ကျော်"

"အမယ်လေး... ဆရာတော်ရယ် ကြောက်စရာကြီး ပါလား"

"မပြီးသေးဘူး၊ နားထောင်ဦးကွယ့်၊ လွှမ်းမိုးပြင်းစွာ၊ ဝေဒနာကြီးမား၊ လျော့ပါးစည်းစိမ်၊ နေအိမ်မီးလောင်၊ ကုန်အောင်ကျွမ်းလက်၊ ကျိုးပျက်အင်္ဂါ၊ နူနာစိတ်ဖောက်၊ ကျရောက်မင်းဒဏ်၊ မမှန်စွပ်စွဲ၊ ပြုကွဲမျိုးဆွေ၊ ရွှေငွေကျွဲနွား၊ ယွင်းဖောက်ပြားသား၊ ဆယ်ပါးမျက်မှောက်၊ ဒဏ်ကြီးရောက်၍...တဲ့။

"အဲဒါဟာ မဃဒေဝလင်္ကာရဲ့အဆိုပဲ၊ ဆယ်ပါးသော မကောင်းတဲ့ အနိဋ္ဌတို့ဟာ ခင်ပွန်းကြီး ၁၀ ပါးကို ပြစ်မှားတဲ့လူတွေမှာ မတောင့်တဘဲနဲ့ကို ရရှိခံစားရမှာတဲ့ ကိုပေါက်ကျော်"

"မှန်ပါ အရှင်ဘုရား"

"အခု ဒီလင်္ကာကြီးထဲမှာပါသွားတဲ့ အပြစ်တွေဟာကိုပဲ အရကျက်ထားပြီး အပြစ်ကိုကြောက်ကြရမှာ၊ သူပြောသွားတာက ဘာတဲ့၊ အဲ... အဲ... မြွေမျိုခံရမယ်တဲ့၊ မိကျောင်းတို့၊ သစ်တို့၊ ကျားတို့ရဲ့ ကိုက်ခဲဝါးစားခြင်းလည်း ခံရတတ်တယ်တဲ့၊ ရေထဲကို လှေနဲ့သွားလည်း လှေမှောက်သေတတ်တယ်၊ စိတ်နောက် ရူးသွပ်မယ်၊ သွေးအန်မယ်တဲ့၊ ဒါတင် မကသေးဘူး၊ မိုးကြိုးစက်ကွင်းများလည်း မလွတ်ဘူးဆိုပဲ"

"မှန်ပါ ကြောက်စရာပါ အရှင်ဘုရား"

"အေး... ဟုတ်ပါ့ကွယ်၊ ရောဂါဝေဒနာကြီးများလည်း ဖြစ်တတ်တယ်တဲ့၊ ကိုယ့်မှာရှိတဲ့ စည်းစိမ်ဥစ္စာလည်း တရွေ့ရွေ့ နဲ့လျော့နည်းတတ်တယ်၊ ဒါတင်မကသေးဘူး၊ အိမ်မီးလောင်မယ်၊ ကိုယ်လက်အင်္ဂါ ချွတ်ယွင်းမယ်၊ ကုဋ္ဌနူနာကြီးများလည်း ဖြစ် တတ်ဆိုပဲ"

"ဟုတ်ပါ့ အရှင်ဘုရားရယ်"

"မဟုတ်မမှန် စွပ်စွဲတာတို့၊ ဆွေတွေမျိုးတွေနဲ့ ကွေကွဲ ပျက်စီးတာတို့၊ ရွှေငွေကျွဲနွား စတဲ့ သက်ရှိသက်မဲ့ ပစ္စည်းဥစ္စာ တွေ ဆုံးရှုံးတာတို့လည်း ဖြစ်တတ်တယ်တဲ့ ကိုပေါက်ကျော်"

"မှန်ပါ ဆရာတော်ဘုရား"

"ဒီတော့ ဒီဘေးတွေးဟာ ခင်ပွန်းကြီးဆယ်ပါး ပြစ်မှား တဲ့လူတွေမှာ ကေန်ခံစားရတဲ့ အပြစ်တွေပဲ။ အကုန်လုံးတော့ မဟုတ်ဘူး၊ ဒီထဲက တစ်ခုခုပေါ့၊ သို့မဟုတ် နှစ်ခု၊ သုံးခုပေါ့၊ သူ့ကံအလိုက် ကေန်ခံစားကြရမှာကိုး။

"ပြစ်မှားတယ်ဆိုတာကလည်း တို့စာထဲကတော့ ပပဉ္စ တရားကြောင့်ပဲတဲ့၊ ပပဉ္စတရားဆိုတာက အဓိပ္ပာယ်က သံသရာ ကိုချဲ့ပေးတဲ့၊ အဲ... သံသရာမှာ သတ္တဝါတွေကို ကြာစေတတ်တဲ့ တရားသုံးပါးရှိတယ်။ ဒီပပဉ္စ တရားသုံးပါးဆိုတာက တစ်-

တဏှာတဲ့၊ နှစ်-မာနတဲ့၊ သုံး-ဒိဋ္ဌိတဲ့။ အဲဒီ တဏှာ-မာန-ဒိဋ္ဌိ ဆိုတဲ့ တရားသုံးပါးကြောင့် ဖြစ်ကြရတာကိုး။ ဒီတရားသုံးပါးက သတ္တဝါတွေကို ချုပ်ကိုင်ထားတာ၊ ဒါကို တို့က သတိရှိနေရမယ်၊ သူတို့ရဲ့ အချုပ်အကိုင်ကို ရှောင်နိုင်ရမှာနော်''

''မှန်ပါ''

''ရှောင်နိုင်ရင် သက်သာမယ်လေ၊ ဒီတော့ တို့က မပြစ် မှားရမယ့် ပုဂ္ဂိုလ်ဆိုတာကိုလည်း သိထားဦးမှကိုး''

''မှန်ပါ အရှင်ဘုရား''

''အဲ ဂုဏဝုဒ္ဓိ၊ ဝယဝုဒ္ဓိဆိုတာရှိတယ်၊ အချုပ်က ဝယဝုဒ္ဓိဆိုတာက အသက်ကြီးတာ၊ ကိုယ့်ထက်အသက်အရွယ် ကြီးတာ ဝယဝုဒ္ဓိ ပဲ၊ အဲလို လွယ်လွယ်ပဲမှတ်ထား။

''တစ်ခါ နောက်တစ်မျိုးက ဂုဏဝုဒ္ဓိတဲ့၊ ဂုဏ်ကြီးတဲ့ သူတဲ့။ ဂုဏ်ကြီးဆိုတာကလည်း အကျိုးကျေးဇူး ကြီးမြတ်တဲ့ ပုဂ္ဂိုလ်၊ ပညာသတင်း စသည် ကြီးမြတ်တဲ့ပုဂ္ဂိုလ်များကို ဒါ ဂုဏဝုဒ္ဓိလို့ ခေါ်တာ။

''ဒီတော့ ဒီဝယဝုဒိနဲ့ ဂုလာဝုဒိရှိတဲ့ ပုဂ္ဂိုလ်တွေကို မပြစ်မှားအပ်တဲ့ ခင်ပွန်းကြီး ဆယ်ပါးလို့ခေါ်တာ၊ ဒီတစ်ခါ ဒီဆယ်ပါးဆိုတာကဘုရား၊ ပစ္စေကဗုဒ္ဓါ၊ ရဟန္တာ၊ အဂ္ဂသာဝက

အစုံဖြစ်တဲ့ အရှင်သာရိပုတ္တရာနဲ့ အရှင်မောဂ္ဂလာန်၊ မိခင်၊ ဖခင်၊ ဆရာ၊ အတတ်သင်ပေးတဲ့ဆရာ၊ တရားဟောပုဂ္ဂိုလ်၊ ကိုယ့်ကို ကျွေးဖူး၊ မွေးဖူး၊ ပေးဖူး၊ ကမ်းဖူးတဲ့ ပုဂ္ဂိုလ်အားလုံး ၁၀ ဦးရှိတယ်"

"မှန်ပါ၊ နို့... ဘုရား၊ အဲဒီ ဆယ်ပါးကကော"

"ဒါဆို ကိုပေါက်ကျော် ခင်ပွန်းကြီးဆယ်ပါး ဘုရား ရှိခိုးသာ ကျက်ထားပေတော့"

"ဘုန်းကြီးက သင်ပေးလေ၊ တပည့်တော် ကျက်မှာပေ့ါ"

"အဲ... တို့လည်း ခပ်ငယ်ငယ်က အဘိုးအဘွားတွေ သင်ပေးတာကိုး၊ အဲဒါ ရထားတယ်၊ မင်းတို့ နားထောင်ကြည့်"

ဗုဒ္ဓေါ ပစ္စေကဗုဒ္ဓေါစ၊
အရဟာ အဂ္ဂသာဝကာ၊
မာတာပိတု ဂရုသတ္တာ၊
ဓမ္မဒေသကာ စ ဒါယကာ၊
ဣမေ ဒသမဟာဂုဏော၊
အဟံ ဝန္ဒာမိ သဗ္ဗဒါ။

ဗုဒ္ဓေါစ-လေးသစ္စာ အနက်အနဲကို၊ ခက်ခဲရာယှဉ်ညှိ၍ မြင်သိကာ သဘောတရားတို့ကို ဟောကြားတော်မူပေသော မြတ်

စွာဘုရားလည်းကောင်း၊ ပစ္စေကဗုဒ္ဓါစ-နှစ်သင်္ချေ တစ်သိန်း ကမ္ဘာမှာ မယိမ်းစွာကျင့်အပ်သည့် မြင့်မြတ်သော ပါရမီတော်တို့ ကြောင့် အသာတကြည် အာသဝတို့ကိုခွာချကာ အသီးသီးဖြင့် ကိုယ်တည်းသာ သစ္စာအခက်တို့ကို မပျက်ထင်ထင် သိမြင်တော် မူပေသည် ပစ္စေကဗုဒ္ဓါ အရှင်မြတ်တို့လည်းကောင်း၊ အရဟာစ-အာသဝေါမြူမှုန် စင်ကွာကုန်သဖြင့် သုံးဘုံလူပေါင်း ပူဇော် ကောင်းစွာ ရဟန္တာအရှင်မြတ်တို့လည်းကောင်း၊ အဂ္ဂသာဝကာစ-အရှင်သာရိပုတ္တရာ အစဖြာသည့် အဂ္ဂသာဝကတို့လည်းကောင်း၊ မာတာစ-ကိုးလဆယ်လ မီခပိုက်ထွေး နို့ချိုကျွေးသည့် မွေးကျေး ဇူးရှင် မြတ်မိခင်လည်းကောင်း၊ ပိတုစ-အရွယ်ကြီးမား လူလား မြောက်အောင် ကြံဆောင်ကျွေးမွေး ဝတ်ဆင်ရေးနှင့် ရန်ဘေး သွယ်သွယ် အန္တရာယ်ကို ကာကွယ်စောင့်ရှောက်သော ဘပီတာ လည်းကောင်း၊ ဂရုစ-ကျောက်ထီးတန္တု ရှိသေမှုဖြင့် အလေးပြု အပ်သည့် ဆရာမြတ်လည်းကောင်း၊ သတ္တာစ-အတတ်ပညာ ကျင့်သိက္ခာကို တတ်ရာတတ်ကြောင်း နည်းစုံပေါင်း၍ ကျိုး ကြောင်းပြကာ ဆုံးမရှာသည့် ဆရာမြတ်လည်းကောင်း၊ ဓမ္မဒေသ ကာစ-နိယျာနိက ဝဋ္ဋဘဝမှ လွတ်ရာထွက်ကြောင်း တရား ကောင်းကို စုပေါင်းသေချာ စေတနာဖြင့် ဖွေရှာစစ်ကြော ပြော

ဟောပေထ မမွေဒေသက ပုဂ္ဂိုလ်တို့လည်းကောင်း၊ ဒါယကာစ-ကျွေးဖူးမွေးဖူး ကျေးဇူးထောက်လှမ်း ပေးကမ်းပေသော သူတို့လည်းကောင်း၊ ကြမေဒေသ မဟာဂုဏော-စုပေါင်းရေစိတ် ဤတစ်ကျိပ်သော ဂုဏ်ကျေးဇူး ကြီးမြတ်သောသူတို့ကို၊ အဟံ-အကျွန်ုပ်သည်၊ သဗ္ဗဒါ-အခါခပ်သိမ်း၊ ဝန္ဒာမိ-ကျေးဇူးဂုဏ်တင် မြော်ဆင်ခြင်၍ ကြည်လင်စေတနာ ရှိခိုးပါ၏။

"ဒီတော့ ဘုရား၊ ပစ္စေကဗုဒ္ဓါ၊ အဂ္ဂသာဝက၊ ရဟန္တာ၊ မမွကထိက၊ အမိ၊ အဘ၊ ဆရာ၊ အတတ်သင်ပေးတဲ့ဆရာ၊ ကျွေးမွေးဖူးတဲ့သူ စတဲ့ အားလုံး ၁၀ ဦး။

"ဒီပုဂ္ဂိုလ် ၁၀ မျိုးကို မပြစ်မှားရဘူး ပေါက်ကျော်၊ ဒါကိုကြည့် သတိနဲ့ရှောင်ပေတော့"

"အဲ... မင်းကို မှတ်မိအောင် ဝတ္ထုလေး ပြောရဦးမယ်"

"မှန်ပါ ကောင်းတယ်ဘုရား၊ ဒါမှ တပည့်တော်တို့ စွဲသွားမှာ"

"အံမာ... ဒါတော့ ပေါက်ကျော်က သွတ်လိုက်တာ"

"အဲ... ရှေးတုန်းက ဗာရာဏသီပြည်မှာ ဗြဟ္မဒတ်မင်းကြီး မင်းပြုသတဲ့၊ ဒီတုန်းက တို့ဘုရားလောင်းက အဲဒီ

ဗြဟ္မဒတ်မင်းကြီးအပါးမှာ ခစားနေရတဲ့ စောင်းဆရာကြီးကွ၊ အမည်က ဂုတ္တိလတဲ့"

"မှန်ပါ ဂုတ္တိလ စောင်းဆရာပါဘုရား"

"အေး သူက အိမ်ထောင်မရှိဘူး၊ မျက်မမြင် မိဘ နှစ်ပါးကို လုပ်ကျွေးနေတာ၊ လူပျိုကြီးပေါ့"

"မှန်ပါ ဖိုးတင်ဝင်းလို နေမှာပေါ့"

"အေး... အေး"

"ဒါပေမယ့် သူက ဂုတ္တိလလို မဟုတ်ဘူး၊ သူ့မိဘတွေ ကို လုပ်ကျွေးတာ မဟုတ်ဘူး"

"ဟဲ့... ပေါက်ကျော်၊ သူ့မိဘနှစ်ပါးကမှ မရှိတဲ့ဟာ ကို"

"ဟုတ်ပါ့ ဘုရား၊ တပည့်တော် မေ့သွားလို့"

"ကဲ... ကဲ... ဆက်ရအောင်၊ တစ်နေ့သ၌မှာတော့ ဗာရာဏသီသားတွေက ဟို ဥဇ္ဇေနီပြည်မှာ ကုန်ရောင်းကုန်သွယ် သွားကြသတဲ့။

"အဲဒါ သူတို့ရောက်တဲ့နေ့မှာပဲ အဲဒီ ဥဇ္ဇေနီပြည်မှာက လည်း ပွဲလမ်းသဘင်ကြီးရှိနေတာကိုး၊ ဒါနဲ့ သူတို့ကလည်း

ဥဒ္ဒေနီပြည်က စောင်းဆရာကြီး မုသိလကို ငှားရမ်းပြီး စောင်းတီးခိုင်းရော၊ တီးခိုင်းတော့ မုသိလကလည်း ခေတ်လူမှမဟုတ်တာ၊ သူတို့ ဥဒ္ဒေနီမှာဆိုရင် အကျော်ဒေးယျဥစ္စာ၊ လက်ကုန်တီးတာပေါ့"

"ထံတျာတေးရှင်၊ ဂျူတျိမ့်နဲ့ နေမှာပဲနော်"

"ဟုတ်မှာပေါ့ ပေါက်ကျော်ရ၊ နို့... မင်းက ဒီတုန်းက အဲဒီမှာ ရှိလို့လား"

"ဒီ ကိုအုန်းမြနှယ် ဘယ်ကလာရှိမှာလဲ၊ စိတ်ကူးနဲ့ မှန်းရတာကိုး"

"အေး... အေး... ထားပါတော့၊ အဲလို မုသိလက စောင်းသံတစ်သံမှာ ခုနစ်မျိုး ခုနစ်မျိုးနဲ့ စောင်းသံ ခုနစ်သံဆိုတော့ ၄၉-မျိုးအထိ သံညင်း သံပျော့ အစွမ်းကုန်တီးတာကိုး၊ ဒီတွင် ဗာရာဏသီ ကုန်သည်တွေက တဝါးဝါး ပွဲကျသွားပြီး မကောင်းဘူးဟေ့လို့ ဆိုကြသတဲ့။ ဟိုမှာကဖြင့် တီးလိုက်တာ ချွေးဒီးဒီးကျနေတယ်၊ သူတို့က မကောင်းဘူးတဲ့"

"ဟေ့ ဗာရာဏသီသားတွေ၊ မင်းတို့က ငါ့လက်သံကို မကြိုက်ကြတာဟာ ဘာဖြစ်လို့လဲ၊ ငါ့ထက်သာတဲ့အသံကို နား

ထောင်ဖူးလို့လားဆိုပြီး မေးရော၊ အဲလိုမေးတော့ ဗာရာဏသီကုန်သည်တွေက...

"ဟဲ... ဟဲ... ဒီလိုရှိတယ် ဆရာမှသိလ၊ ကျွန်တော်တို့က ဂီတပညာအရာမှာ ကိုယ်သာ မတီးတတ်တာ၊ အသံကောင်း မကောင်းတော့ သိတယ်ဗျ၊ ကျွန်တော်တို့ ဗာရာဏသီက ဂုတ္တိလ စောင်းသံကြားဖူးထားတော့ ခင်ဗျားရဲ့စောင်းသံကို ဘယ်လိုမှ နားထောင်လို့ကို မရဘူး"

"အဲလို ပြန်ပြောကြရော ကိုပေါက်ကျော်"

"အဲလိုပြောတော့ မုသိလက ဘာပြောသလဲ ဘုရား"

"ဘာပြောမလဲ၊ ကဲ... ဒါဆို ကိုရွှေဗာရာဏသီသားတို့ရယ်၊ အခု ငါ့ကိုငှားတဲ့ အဖိုးအခကိုလည်း ပေးမနေကြနဲ့တော့၊ သင်တို့ ဗာရာဏသီပြန်ရင်သာ ငါ့ကို အခမဲ့ စရိတ်ငြိမ်း ခေါ်သွားကြပါလို့ပြောတာနဲ့ ကုန်သည်တွေကလည်း သဘောတူလိုက်တယ်။

"ဒီလိုနဲ့ ကုန်သည်တွေက သူတို့ကုန်တွေလည်း ရောင်းလို့ပြီးရော အပြန်မှာ မုသိလ စောင်းဆရာကို ခေါ်လာကြတယ်၊ ဗာရာဏသီရောက်တော့ မုသိလလည်း ဂုတ္တိလစောင်းဆရာအိမ်ကို မေးမြန်းပြီးရောက်သွားရော၊ မုသိလရောက်တော့ ဂုတ္တိလက

သူ့အိမ်မှာ မရှိဘူးကွ၊ အိမ်မှာက စောင်းကြီးကိုတော့ ချိတ်ဆွဲထားတာ တွေ့ရတယ်တဲ့။

"ဒီတော့ မုသိလက ဂဏှာမငြိမ်ဘူး၊ ဂုတ္တိလရဲ့စောင်းကြီးကို ဖြုတ်ယူတီးခတ်ရော ဒီတော့ ဂုတ္တိလရဲ့ မျက်မမြင် မိဘနှစ်ပါးက စောင်းကို ကြွက်ကိုက်တယ်ထင်ပြီး 'ဟဲ့... ကြွက်၊ ဟဲ့... ကြွက်'နဲ့ခြောက်လှန့်ကြသတဲ့"

"အရှင်ဘုရား ရယ်စရာပဲ၊ ဟို... အဘိုးကြီးနဲ့အဘွားကြီးက စောင်းသံကိုများ ကြွက်သံ မှတ်ရတယ်လို့"

"အေးလေ... ဟုတ်တာပေါ့၊ ဂုတ္တလရဲ့လက်သံနဲ့က ကွာချင်တိုင်း ကွာနေမင့်ဟာ၊ ဟို... မုသိလကသာ သူ့လက်သံကောင်းလှဆိုပြီး အညှုတွေ၊ အခရာတွေနဲ့ လိမ့်နေမှာ၊ ဟိုက ဂုတ္တိလ မိဘနှစ်ပါးကဖြင့် ကြွက်သံပဲ မှတ်တာကိုး၊ သူ့သားလက်သံနဲ့က ကွာချင်တိုင်း ကွာနေတာ။

"ဒီတော့ ကြွက်မောင်းသံ ကြားရတော့မှ မုသိလက 'အို... မိခင် ဖခင်တို့ခင်ဗျား၊ ကြွက်မဟုတ်ပါဘူး၊ ကျွန်တော်လူပါ၊ ဥဇ္ဇေနီပြည်က လာတာပါ၊ ဆရာကြီးထံ လာတာပါ၊ ဆရာကြီးကိုမတွေ့ဘဲ စောင်းကိုပဲတွေ့ရလို့ စောင်းကြိုးတွေညှိ

ပြီး တီးကြည့်တာပါပဲ ဖြေရှာတယ်၊ သူ ရှင်းပြနေတုန်းမှာတွင် ဘုရားလောင်း ဂုတ္တိလ စောင်းဆရာလည်း ပြန်ရောက်လာတယ်။

"အဲလို ဂုတ္တိလဆရာကြီး ပြန်လာတာကိုမြင်တော့ မုသိလက ပျာပျာသလဲ ဆီးကြိုပြီး ဆရာ့ထံ ပညာသင်ရန် လာပါကြောင်းကို ရိုရိုသေသေ ပြောဆိုပြီး ပညာသင်ပေးဖို့ ခွင့်တောင်းရှာတယ်။

"ဒီတွင် ဂုတ္တိလက မုသိလရဲ့ ရုပ်ဆင်းအင်္ဂါ၊ အပြောအဆို၊ အမူအရာ လက္ခဏာကိုကြည့်တော့ လူယုတ်မာမှန်း သိပါတယ်၊ သင်ပေးလည်း ကျေးဇူးများမယ့် တပည့်မဟုတ်မှန်းသိလို့ သင်ပေးဖို့ ငြင်းဆိုလိုက်တယ်"

"ဟောဗျာ... ဒါဆို မုသိလကြီး မသင်ရတော့ဘူး ပေါ့"

"ဒီလိုလည်း မဟုတ်ဘူးကွ၊ မုသိလက လူပါးပဲဟာ၊ ဂုတ္တိလက မသင်ပေးဘူးဆိုတာနဲ့ ဟို... မျက်မမြင် မိဘနှစ်ပါးကို ချဉ်းကပ်တယ်၊ ဝတ်ကြီးဝတ်ငယ်တွေ လုပ်ပေးပြီး သူ့အား စောင်းပညာသင်ပေးရန် ဝိုင်းပြောဖို့ ပူဆာတာကိုး"

"အတော်ပါးတဲ့ ငနဲကြီး"

"ဟုတ်ပါ့ ပေါက်ကျော်၊ ဂုတ္တိလရဲ့ မိဘတွေက မျက်မမြင်တွေဆိုတော့ သူ့မျက်နှာပေါက်ကိုမှ မတွေ့ကြရှာတာကိုး"

"အေး... ဟုတ်တယ် မောင်အုန်းမြရဲ့၊ ဒါနဲ့ တိုတိုပဲ ဆိုပါတော့၊ ဂုတ္တိလကလည်း မိဘတွေကိုယ်တိုင်က သင်ပေးဖို့ ပြောနေမင့်ဟာ ဒါနဲ့ပဲ လက်ခံလိုက်ရရှာတယ်။

"သင်တော့ကော ဘုရားလောင်း မဟုတ်လား၊ ကပျက် ကချောက် သင်ပေးတာမျိုး ဘယ်ဟုတ်ပါ့မလဲ၊ ဆရာစားတောင် မချန်ဘူး၊ အကုန်လုံး သင်ပေးတာ။

"ဘုရားလောင်းက အဲလိုသင်တော့ ဂုတ္တိလကလည်း အတတ်မြန်တာပေါ့၊ နဂိုရ်ကလည်း စောင်းပညာကို တတ်တယ်၊ အခုလည်း လိုလိုချင်ချင်နဲ့သင်တာဆိုတော့ မုသိလလည်း မကြာ ခင်မှာ စောင်းအတတ်ကို ထွန်းထွန်းပေါက်ပေါက် တတ်ရော၊ ဘုရင်မင်းကြီးကတောင် မုသိလရဲ့လက်သံကို ကြိုက်လွန်းလို့ ဂုတ္တိလလို လခရိက္ခာပေးပြီး သူ့အပါးမှာ ခစားစေသတဲ့။

"တယ်ဟုတ်ပါလား ဘုရား၊ ဘုရားလောင်း ဂုတ္တိလနဲ့ ရာထူးတူနေမင့်ဟာ"

"အေး... ဟုတ်တယ်၊ ဒါ မာန-မာန်ပဲပေါ့၊ မာန်ဆို တာက သံသရာနယ် ကျယ်အောင်ချဲ့တဲ့ တရားကွ၊ တဏှာတို့၊ မာနတို့၊ ဒိဋ္ဌိတို့ကို ပပဉ္စတရားတဲ့၊ သံသရာနယ်ကို ကျယ်အောင် ချဲ့တဲ့ တရားတဲ့၊ ဒီတရားသုံးပါးဟာ သတ္တဝါတိုင်းမှာ တည်ကိန်း

နေတာ၊ အခု တို့ သံသရာကျင်လည်နေရတယ်ဆိုတာကလည်း သူတို့လက်ချက်ပဲပေါ့။

"အဲ... အခု မုသိလ ကြည့်၊ ဒီ မာနက သူ့ကို ဒုက္ခပေးမှာ၊ ဆက်ပြီးသာ နားထောင် ကိုပေါက်ကျော်"

"မှန်ပါ့ အရှင်ဘုရား"

"အဲ... မုသိလက ဘုရင်ကြီးကို ပြောတယ်၊ အရှင်မင်းကြီး ဂုတ္တိလရဲ့ စောင်းလက်သံနဲ့ ကျွန်တော်မျိုးရဲ့ စောင်းလက်သံတို့ကို ဘယ်သူက သာတယ်၊ ကောင်းတယ်သိရအောင် မင်းရင်ပြင်မှာ ပြိုင်ပွဲကြီးလုပ်ရရင် မကောင်းဘူးလားတဲ့။

"ဟော... ပညာဖြင့် တတ်မယ်မကြံသေးဘူး၊ ဆရာကို စော်ကားချင်လာပြီ"

"အေး... ဟုတ်ပါ့"

"သူက ဆက်ပြောသေးတယ်။

"ဒါမှ ဘယ်သူက တော်တယ်ဆိုတာ အရှင်မင်းကြီး သိရမှာလို့၊ အဲလိုပြောတော့ ဘုရင်ကြီးကလည်း 'ကောင်းပါ့ကွာ' သင်တို့နှစ်ယောက် စောင်းပြိုင်တီးရမယ်၊ ဘယ်နေ့ ဘယ်ရက်မှာပေါ့နဲ့ ရက်သတ်မှတ်ပေးလိုက်တယ်"

"ပေါက်ကျော်"

"ပြော... ဖိုးတင်ဝင်း"

"ဒါ ဖောက်ချည်သွင်းလာတာကွ"

"ဟုတ်ပါ့"

"မှသိလတော့ အပျော်ကြီး ပျော်သွားတယ်၊ သူ့ဆရာကို အာခံခွင့်ရပြီကိုး၊ အဲဒါပဲကြည့် ရွှေပေါက်ကျော်၊ ကျေးဇူးမသိ တတ်တဲ့သူကို ပညာသင်ပေးရတာ ဘာမျှ အကျိုးမများဘူး၊ ကိုယ့်တောင် ဒုက္ခပြန်ပေးသေးတယ်၊ 'အားနာရင် အားပါတယ်၊ နွားပိန်ထူရင် လူကိုဝှေ့တယ်ဆိုတာ ဒီလို လူစားတွေပဲ"

"ဂုတ္တိလခမျာ နဂိုက သင်ပေးချင်တာမှ မဟုတ်တာ၊ မိဘတွေရဲ့စကားကို နားထောင်မိလို့ သင်ဖြစ်သွားရတာကိုး၊ သင်ပေးတော့လည်း ဆရာ့စားတောင် မချန်ရှာဘူး၊ သူ တတ် တာတွေ အကုန်လုံး တွန်းသင်ပေးလိုက်တာ၊ တို့ စကားပုံရှိတယ် လေ၊ 'ဟင်းစားသာပေး၊ ကွန်ချက်မပြနဲ့'တဲ့ အခု ဂုတ္တိလခမျာ ဟင်းစားတောင်မက ကွန်ချက်ပြမိလို့ ဒုက္ခရောက်ရှာရတော့ မှာကိုး"

"မှန်ပါ့ အရှင်ဘုရား"

"အဲဒါ မုသိလနဲ့ ဂုတ္တိလတို့ စောင်းလက်သံပြိုင်ပွဲကို ဒီကနေ့ကစပြီး ခုနစ်ရက်မြောက်တဲ့နေ့မှာ မင်းနန်းရင်ပြင်၌ ယှဉ်ပြိုင်မယ့်အကြောင်းကို ဗာရာဏသီတစ်မြို့လုံး မောင်းတီးကြေညာထားတော့ ဂုတ္တိလလည်း ကြားတာပေါ့ကွ၊ နို့ပေမယ့် သူ့ခမျာမှာ ဘာမသိ၊ ညာမသိနဲ့ဟာ အခုမှသိရတော့ ရှက်ရှာသတဲ့။ သူ့တပည့်နဲ့ ပြိုင်ရမှာကိုး၊ နောက်ပြီး ဆရာစားလေးတောင်မချန်ဘဲ သင်ပေးလိုက်မိတော့ အခု သူ့မှာ ဒုက္ခတွေ့ပြီကော။

"မုသိလ တပည့်ကတော့ အသက်ကငယ်ငယ်၊ အားခွန်ဗလရှိတယ်၊ ငါကတော့ အသက်ကကြီးလာပြီ၊ အိုမင်းရင့်ရော်လာပြီ၊ ငါက သူ့ကို ဆရာစားတောင်မချန်ဘဲ သင်ပေးထားတော့ လက်ရေက ညီနေတော့ ဘုရား... ဘုရား... ငါ သူ့ကို နိုင်ပါ့မလား၊ တကယ်လို့ ငါ ရှုံးရင် အသက်ရှင်နေတာက ဘာထူးမလဲ၊ သေတာကမှ တော်သေးတယ်နဲ့ စဉ်းစားနေသတဲ့။

"ဒါနဲ့ အလောင်းတော်ခမျာ ရှက်လွန်းလို့ အိမ်ပြန်ကြိုးတစ်ချောင်းယူ၊ တောထဲသွားပြီး ကြိုးဆွဲချသေမယ် လုပ်ရှာတယ်၊ ဟိုရောက်တော့ မသေရဲပြန်ဘူးတဲ့"

"အတော့်ကို ရှက်နေမှာ ကိုယ်တော်"

"ရှက်မှာပေါ့၊ မုသိလဆိုတဲ့ ငနဲက စော်ကားမော်ကား လုပ်ပြီဟာကို ရှက်မှာပေါ့ မောင်တင်ဝင်းရာ၊ အဲဒါ စာထဲမှာဆို တာက သူ့ကိုယ်သူ သေဖို့လုပ်တာ အိမ်နဲ့တောထဲကို သွားတဲ့ အခေါက်ရေ ဘယ်လောက်များလဲဆို သူ သွားတဲ့လမ်းမှာ မြက် တောင်မှ မရှိတော့ဘူး၊ ပြောင်တလင်းခါနေသတဲ့၊ တကယ်တမ်း သေမယ်လုပ်တော့လည်း မသေရဲရှာဘူး၊ သူ့ခမျာ ရှက်လွန်းလို့ သာ ကြံမိကြံရာ ကြံရှာတာကိုး။



"အဲလိုဖြစ်နေတုန်း သိကြားမင်းရဲ့ ပဏ္ဍုကမ္ဗလာ မြကျောက်ဖျာက ပူပြင်းတဲ့ အခြင်းအရာကိုပြရော၊ ပြတော့ သိကြားမင်းကြီး ဆင်ခြင်ကြည့်တော့ အလောင်းတော်ခမျာ ဒုက္ခနဲ့ ရင်ဆိုင်နေရတာကို သိတာပေါ့။

"ဒါနဲ့ သိကြားမင်းက လူ့ပြည်ဆင်းလာပြီး ဂုတ္တိလကို မေးတယ်၊ မေးတော့ ဂုတ္တိလကလည်း သူ့ကို သူ့တပည့်မိုက် မုသိလ သူ့ကျေးဇူးကိုမှုမထောက်၊ သူနဲ့ ယှဉ်ပြိုင်မယ့်အကြောင်း ကို ပြောပြတာပေါ့။

"ဒီတွင် သိကြားမင်းက ဆရာ ဂုတ္တိလ စိတ်မပူပါနဲ့၊ သင့်ရဲ့ မုသိလက တပည့်မိုက်ဟာ သင့်ကို မနိုင်စေရပါဘူး၊ နောက် ပြီး ဆရာဂုတ္တိလဟာ အရင်က ကျုပ်ရဲ့ကျေးဇူးရှင်ဆရာ ဖြစ်ဖူးပါ

တယ်၊ ဆရာ့ကျေးဇူးကို အခု ကျူပ် ဆပ်ပါ့မယ်ပေါ့၊ သိကြားမင်းက ပြောတာ။

"ဒီတော့ ဆရာတို့ စောင်းတီးပြိုင်တဲ့အခါ ဆရာက စောင်းကြိုးတစ်ချောင်းဖြတ်ပြီး စောင်းကြိုးခြောက်ချောင်းနဲ့ တီးပြပါ၊ ကြိုးတစ်ချောင်းလျော့နေပေမယ့် အသံ မလျော့စေရပါဘူး။

"အဲ... ဆရာ့လိုပဲ မုသိလက ကြိုးတစ်ချောင်းဖြတ်တီးရင်တော့ ဆရာ့လိုမဟုတ်ဘဲ သူ့စောင်းသံဟာ အသံလျော့နေမှာပါ၊ ဒီအခါ မုသိလ ရှုံးပါလိမ့်မယ်။

"ဆရာက နှစ်ချောင်းမြောက် ကြိုးကစပြီး ခုနစ်ချောင်းမြောက် ကြိုးအထိ တစ်ချောင်းပြီးတစ်ချောင်း ဖြတ်ဖြတ်ပြီး တီးပြပါ၊ အဲလိုနဲ့ နောက်ဆုံးကျတော့ စောင်းလက်သက်သက်ကိုသာ တီးပါ၊ ၁၂ ယူဇနာကျယ်တဲ့ ဒီဗာရာဏသီတစ်ပြည်လုံး ဆရာ့စောင်းသံကြီး ဖုံးလွှမ်းနေပါလိမ့်မယ်။

"နောက်ပြီး ဒီအန်စာ သုံးလုံးကို ကောင်းကင်ပေါ် ပစ်မြောက်လိုက်ရင် အံ့ဩစရာကောင်းလောက်အောင် နတ်သမီးသုံးရာတို့က နတ်ပြည်မှဆင်းလာပြီး မဏ္ဍပ်အတွင်းမှာ ကပြပါလိမ့်မယ်လို့ သိကြားမင်းက ပြောခဲ့ပြီး နတ်ပြည်ပြန်ရောတဲ့"

"တောက်... ဒီပွဲမျိုး ကြည့်ချင်လိုက်တာ"

"ဘာလဲ၊ ပေါက်ကျော်က နတ်သမီး ကမယ်ဆိုလို့လား"

"ဟဲ... ဟဲ"

"အဲဒါ ခုနစ်ရက်မြောက်တဲ့နေ့ကျတော့ မင်းရင်ပြင်မှာ စောင်းတီးပြိုင်ပွဲကြီး ကျင်းပတာပေါ့၊ မင်းပရိသတ် အစုံအလင်နဲ့ ဗာရာဏသီ ပြည်သားတွေလည်း လာလိုက်တာမှ ကြိတ်ကြိတ်တိုး ပဲဟေ့။



"သိကြားမင်းကြီးလည်း လာကြည့်တယ်၊ ကောင်းကင်မှာ ရပ်နေတယ်၊ သူ့ဆရာကို လာအားပေးတာ၊ သိကြားမင်းကိုတော့ ဂုတ္တိလကပဲ မြင်တယ်၊ အခြား ဘယ်သူမှ မမြင်ရဘူးတဲ့၊ အဲ... ပြိုင်ပွဲလည်းစရော ဘုရားလောင်း ဂုတ္တိလဆရာက သိကြားမင်း မှာကြားသွားတဲ့အတိုင်း တီးပြလိုက်တယ်၊ နတ်ပြည်က နတ်သမီးတွေက ဆင်းလာပြီး မဏ္ဍပ်ထဲမှာကတော့ ဘာပြောကောင်းမလဲ၊ ဝက်ဝက်ကွဲအောင် အားပေးကြတာပေါ့၊ အလွန့်အလွန် ထူးဆန်းတဲ့ ဖြစ်အင်ကိုမြင်ရတော့ ပရိသတ်ကြီးဟာ အံ့ဩဘနန်းရှိပြီး ဘုရားလောင်းကို ဩဘာပေးကြတယ်၊ ဒီတွင် ဆရာ့ကို ပြစ်မှားရပါ့မလားဆိုပြီး မဏ္ဍပ်ထဲကနေ မုသိလကို

ဆွဲထုတ်ပြီး သူတစ်ချက် ကိုယ်တစ်ချက်နဲ့ ရိုက်ပုတ်ကြတာတဲ့၊ မုသိလလည်း သေရောတဲ့ ပေါက်ကျော်''

''အရှင်ဘုရား''

''ဒါ ဆရာဆိုတဲ့ ခင်ပွန်းကြီးကို ပြစ်မှားတာမဟုတ်လား''

''ဟုတ်ပါတယ် အရှင်ဘုရား''

''ကြောက်စရာရယ်နော်''

''မှန်ပါ၊ ကြောက်စရာပါပဲ ဘုရား''

''အေး... ခင်ပွန်းကြီးဆယ်ပါးကို မပြစ်မှားကြလေနဲ့၊ လက်ငင်းကို တစ်မျိုးမဟုတ် တစ်မျိုးနဲ့ဆိုသလို ဘေးတွေ့တတ်တယ် ခင်ဗျာ''

''ကဲ... ဂုတ္တိလလည်း ပြိုင်ပွဲနိုင်သွားပြီ၊ အဲဒါ သိကြားမင်းက နတ်ပြည် ပြန်ရောက်တော့ မာတလိကိုလွှတ်ပြီး ဂုတ္တိလကို နတ်ပြည်ကို ခေါ်လာစေတယ်၊ နတ်ပြည်ရောက်တော့ နတ်သမီးတွေက ဂုတ္တိလရဲ့ စောင်းသံကြားချင်လို့ တီးပြရသေးတယ်၊ နို့ပေမယ့် ဂုတ္တိလက မတီးခင် စောင်းတီးခ တောင်းလိုက်သေးတယ်၊ စောင်းတီးခ,ရမှ တီးပြမယ်ဆိုလို့ နတ်သမီးတွေက

စောင်းတီးခ,ပေးရှာတယ်၊ နို့... ဂုတ္တိလတောင်းတဲ့ စောင်းတီးခကို ပေါက်ကျော် သိလား"

"မသိပါ ဘုရား"

"သူက ပိုက်ဆံကြေးငွေ မဟုတ်ဘူးကွ။

"သင်တို့တစ်တွေ ဒီနတ်ပြည်ရောက်လာရတာ ဘယ်လိုကောင်းမှုတွေကြောင့်လဲလို့ မေးတာ၊ နတ်သမီးတွေက သူတို့လုပ်ခဲ့တဲ့ ကောင်းမှုကံကို ပြောပြကြရတယ်တဲ့။

"အဲ... ဂုတ္တိလဆရာလည်း နတ်ပြည်မှာ ခုနစ်ရက်နေပြီး လူ့ပြည်ပြန်လာတယ်၊ နတ်သမီးတွေပြောတဲ့ ဒါန၊ သီလစတဲ့ ကောင်းမှုတွေကို တစ်ဆင့်ပြန်ပြောပြတော့ ဗာရာဏသီသားတွေဟာ အရင်ကထက် ပိုယုံကြည်၊ ပိုပြီး ကုသိုလ်လုပ်ကြပေါ့ကွာ"

"အဲ... ဇာတ်ပေါင်းတော့ မုသိလက ဒေဝဒတ်အလောင်း၊ သိကြားမင်းက အာနန္ဒာအလောင်းဖြစ်ပြီး ဂုတ္တိလကတော့ ဗုဒ္ဓအလောင်းတော်တဲ့၊ ဒါဟာ ပြစ်မှားခြင်းငှာ မထိုက်တဲ့ ပုဂ္ဂိုလ်မြတ်တွေကို ပြစ်မှားလို့ ဒုက္ခတွေ့တဲ့ သက်သေပဲ"

"မှန်လှပါ အရှင်ဘုရား"

* * *

ဦးထွန်းလှိုင်
(မဇ္ဈိမာစရိယ၊ဘီအေ)